ကုမ္ပဏီအမည် - Myanmar Rock Mountain Company Limited

လုပ်ငန်း - လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၁-၈-၂၀၁၅ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၃-၉-၂၀၁၅ | | |
| | (ဒု)ကြိမ် | ၂၉-၉-၂၀၁၅ | ၉-၁၀-၂၀၁၅ | ၃၅ ရက် |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၄-၉-၂၀၁၅ | | |
| | (ဒု)ကြိမ် | ၃၀-၉-၂၀၁၅ | ၂၈-၉-၂၀၁၅ | ၅၃ ရက် |
| ၃ | PAT (၃၀/၂၀၁၅) သို့ တင်ပြခြင်း | ၂၄-၈-၂၀၁၅ | | |
| ၄ | အဆိုပြုချက်လက်ခံကြောင်းပြန်ကြားခြင်း | ၇-၉-၂၀၁၅ | | |
| ၅ | ရှေ့နေချုပ်ရုံးသဘောထား မှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)နှင့်အတူ အဆိုပြုလွှာပေးပို့ခြင်း | ၁၂-၁၁-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၇၄ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Myanmar Rock Mountain Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | (၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောဝန်ကြီးဌာန၊သစ်တော ဦးစီးဌာနပိုင် အကွက်အမှတ်-၁၂၊ ဘဝါကြိုးဝိုင်း၊ ရေဖြူမြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး ရှိ မြေဧရိယာ ၄၈ ဧက<br>(၂) ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆)၊ ဇာဒိ ကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး မြေဧရိယာ ၁၄.၇၁ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် **၁,၅၀၀.၀၀၀** သန်း |
| အရင်းကြေကာလ | - | ၄ နှစ် ၉ လ |
| IRR | - | ၂၃.၉၈ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါ ဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ၃.၀၀(တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | ဝင်ငွေခွန် | ၆၉၆.၆၃ | ၁,၀၀၈.၀၈ |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | ၇၇၀.၅၅ | ၁,၁၁၇.၀၀ |
| ၅ | ဒီဇယ်ဆီသုံးစွဲခ | | ၂၁၅.၀၀ |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ် ၂ သန်း ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၈၀) ဦး |
| ၇ | CSR(၂%) | | ၁၁၆.၂၂ |
| ၈ | မြေငှားရမ်းခရငွေ(အစိုးရပိုင်မြေ) | | ၇.၂၀ |
| ၉ | Royalty | | ၂,၄၃၀.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၀၀ ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ် အကိုင်အခွင့်အလမ်းနှင့် ဒေသစီး ပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။<br>အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိစေပြီး ဆင်းရဲနွမ်းပါးမှု လျော့ချရေးကိုအထောက်အကူပြုစေနိုင်ပါသည်။ |
| | | ၁,၄၇၀.၁၈ | ၄,၈၉၄.၆၇ |
| | | ၁း၃.၃၃ | |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၅(အ)/မ-၀၀၃/၂၀၁၅ (၃၈၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၂ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Rock Mountain Co., Ltd. မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးခွဲကျောက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ Myanmar Rock Mountain Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်-၁၂ ရှိ မြေ(၄၈) ဧက (၁၉၄,၂၄၉.၂၈ စတုရန်းမီတာ) အား ပတ်ဝန်းကျင် ထိန်း သိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနမှ နှစ်ရှည်မြေငှားရမ်းစနစ်ဖြင့် နှစ် ၃၀ စာချုပ်ချုပ်ဆိုငှားရမ်း၍သော်လည်းကောင်း၊ တနင်္သာရီတိုင်းဒေသကြီး၊ ရေဖြူမြို့နယ်၊ ဇာဒိ ကျေးရွာအုပ်စု၊ ဦးပိုင် အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆) ရှိ မြေ ၁၄.၇၁ ဧက (၅၉,၅၂၉.၃၁၀၆ စတုရန်းမီတာ) တွင် သော်လည်းကောင်း၊ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးခွဲကျောက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်သူသူမြင့် (အဘ-ဦးဝင်းတင်(ခ)လှိုင်ကျူးကျော်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် Myanmar Rock Mountain Co., Ltd. တို့အကြား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်-၁၂ ရှိ မြေ ၄၈ ဧက ကိုငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းဆိုင်ရာ မြေငှားစာချုပ်(မူကြမ်း)ပါ အဓိက အချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) တစ်ဧက မြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်း မပြုလုပ်ဘဲ တစ်ချိန်တွင် မြေငှားရမ်းခနှုန်းကို နိုင်ငံတော်မှ သတ်မှတ်သည့်အတိုင်း ပေးသွင်းရန်။ (စာချုပ် အပိုဒ် ၄-က)

(ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်

အမှတ်-၁၂ အတွင်းရှိ မြေ (၄၈) ဧက အတွက် Myanmar Rock Mountain Co., Ltd. မှ တစ်နှစ်လျှင် တစ်ဧကအတွက် မြေငှားရမ်းခ မြန်မာ ကျပ်ငွေ ၁၅,၀၀၀ နှုန်းဖြင့် (၄၈) ဧက အတွက် ကျပ် ၇၂၀,၀၀၀ (ကျပ် ခုနှစ်သိန်း နှစ်သောင်း တိတိ) ကို ပေးသွင်းမည်ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၅-က)

(ဂ) မြန်မာ့အာမခံဥပဒေနှင့်အညီ လိုအပ်သောအာမခံများကို သစ်တောဦးစီးဌာန၏ အမည်ဖြင့် ထားရှိရမည်။ (စာချုပ်အပိုဒ် ၇-ဂ)

(ဃ) ငှားရမ်းထားသောမြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကို သော်လည်းကောင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ ခွင့်ပြုချက်မရရှိဘဲ မည်သူ့ကိုမျှ တစ်ဆင့်ငှားရမ်းရောင်းချ၊ လွှဲအပ်၊ လွှဲပြောင်း၊ ပေါင်နှံ၊ ထုခွဲခြင်းမပြုရ။ ကိုယ်တိုင်လုပ်ကိုင်ခြင်းမရှိလျှင် သစ်တောဦးစီးဌာန သို့ ပြန်လည်အပ်နှံရမည်။ (စာချုပ်အပိုဒ် ၇-င)

(င) အငှားချထားခြင်းခံရသူသည် ခွင့်ပြုထားသည့် မြေဧရိယာတွင် လမ်းခင်းကျောက် တူးဖော်ထုတ်လုပ်ရာ၌ ကျောက်(၁)ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅% ဖြင့် စုစုပေါင်း ထုတ်လုပ်သည့် လမ်းခင်းကျောက်ပမာဏ(ကျင်း)အတွက် ကျသင့် အခွန်ငွေကို သတ်မှတ်သည့်နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၇-ဆ)

(စ) သဘာဝပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှုအတွက် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုထားသည့် မြေဧရိယာ (၄၈) ဧက ၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် ကြီးကြပ်စစ်ဆေးရန် လွှယ်ကူမည့် သစ်တောနယ်မြေတွင် (၃)နှစ်အတွင်းအပြီး တည်ထောင်စိုက်ပျိုးပေးရန် ဝန်ခံကတိပြုပြီး တည်ထောင်စိုက်ပျိုးပေးရမည်။ (စာချုပ် အပိုဒ် ၇-ဈ)

(ဆ) ကျောက်တူးဖော်ထုတ်လုပ်ရန် ခွင့်ပြုမြေဧရိယာ(၁)ဧကလျှင် လုပ်ငန်းအာမခံငွေ ကျပ် ၅၀,၀၀၀ နှုန်းဖြင့် သစ်တောဦးစီးဌာနမှ သတ်မှတ်သည့် မြန်မာ့စီးပွားရေးဘဏ်တွင် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၇-ည)

(ဇ) စာချုပ်သက်တမ်းကို ကနဦးသက်တမ်း (၁၀)နှစ် သတ်မှတ်ပြီး နှစ်ဦး နှစ်ဖက်ညှိနှိုင်း၍ နောက်ထပ်တစ်ကြိမ် (၅)နှစ်ဖြင့် (၂)ကြိမ်အထိ ဆက်တိုက် သက်တမ်းတိုးမြှင့်ခွင့်ရှိပါသည်။ (စာချုပ်အပိုဒ် ၁၂)

(ဈ) အငှားချထားခြင်းခံရသူမှ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်-၁၂ ရှိ မြေ (၄၈) ဧကတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းနှင့်

ဖြန့်ဖြူးရောင်းချခြင်း အတွက် လုပ်ငန်းအာမခံငွေအဖြစ် တစ်ဧကလျှင် ကျပ် ၅၀,၀၀၀ (ကျပ် ငါးသောင်းတိတိ) နှုန်းဖြင့် စုစုပေါင်း ကျပ်၂,၄၀၀,၀၀၀ (ကျပ် နှစ်ဆယ့် လေးသိန်း တိတိ) ကို သစ်တောဦးစီးဌာနသို့ သတ်မှတ်ထားသော နည်းလမ်းဖြင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။ (စာချုပ် အပိုဒ် ၁၇-က)

(ည) စာချုပ်သက်တမ်းကုန်ဆုံးလျှင် သော်လည်းကောင်း၊ လုပ်ငန်းမလုပ်လိုတော့၍ ပြန်လည်အပ်နှံလျှင် သော်လည်းကောင်း၊ ဝန်ခံကတိပြုထားသည့် ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပြီးစီးပါက လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ယူခွင့်ရှိသည်။ (စာချုပ် အပိုဒ် ၁၇-ခ)

(ဋ) ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀%ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပေးမည်ဖြစ်ကြောင်း ဝန်ခံကတိအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်ပါက အဆိုပါလုပ်ငန်းအာမခံငွေအား ဘဏ္ဍာငွေအဖြစ် သိမ်းယူခွင့်ရှိသည်။ (စာချုပ်အပိုဒ် ၁၇-ဂ)

(ဌ) စာချုပ်သက်တမ်း နှစ်(၃၀) ကုန်ဆုံးသည့်အခါ သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူညီပြီး နောက်ထပ်တစ်ကြိမ်လျှင် (၅)နှစ်နှင့်ဆက်တိုက် (၂)ကြိမ် သက်တမ်းတိုးကာလ ကုန်ဆုံးသည့်အခါ ငှားရမ်းထားသည့်မြေကို အငှားချထားသူသို့ အငှားချထားခြင်းခံရသူက ငှားရမ်းစဉ် အခြေအနေကထက် မနိမ့်ကျဘဲ စာချုပ်သက်တမ်းကုန်ဆုံးပြီး (၃၀)ရက်အတွင်း အဖိုးစားနားမဲ့ လွှဲပြောင်းရမည်။ (စာချုပ်အပိုဒ် ၂၀-က)

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ် ၁,၅၀၀.၀၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ကြမည်ဖြစ်ပါသည်-

| | **ကျပ်<br>(သန်း)** |
|---|---:|
| ငွေသား | ၄၄၁.၁၇၄ |
| စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၇၃၃.၃၉၇ |
| အဆောက်အဦ | ၂၂၇.၀၇၀ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၉၈.၃၅၉ |
| **စုစုပေါင်း** | **၁၅၀၀.၀၀၀** |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပုံမှန်နှစ် (၆-နှစ်မြောက်) တွင် ပြည်တွင်းဝန်ထမ်း (၁၀၀) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်း ၁ ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း ၁ ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ လမ်းခင်းကျောက်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်) တွင် ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| ထုတ်လုပ်မည့် အမျိုးအစား | တစ်ကျင်းဈေးနှုန်း (ကျပ်) | ထုတ်လုပ်မည့် ကျင်းပေါင်း |
|---|---|---|
| Chipping 0 - 25 mm | ၃၈,၀၀၀ | ၃၀,၀၀၀ |
| 2 - 4 Inches | ၃၅,၀၀၀ | ၃၅,၀၀၀ |
| 6 - 9 Inches | ၃၂,၀၀၀ | ၃၅,၀၀၀ |
| Other size | ၂၅,၀၀၀ | ၃၅,၀၀၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ကုမ္ပဏီမှရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄,၃၆၀.၀၀ |
| (ခ) | အသုံးစရိတ် | ၃,၇၇၀.၀၀ |
| (ဂ) | အသားတင်အမြတ် | ၅၉၀.၂၅ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန်ကျပ် ၁၉၆.၇၅ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၂၁၈.၀၀ သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် ၉ လ ဖြစ်ပြီး အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၃.၉၈ % ဖြစ်ပါသည်။

၈။ ယင်းအဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး**မှ Myanmar Rock Mountain Co., Ltd. မှ လျှောက်ထားလာသည့် မြေနေရာသည် ရေဖြူမြို့မှ (၂၃)မိုင်ခန့် အကွာအဝေးတွင် တည်ရှိသဖြင့် ရေဖြူမြို့၏ နောင်တွင် ပြုလုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊ Myanmar Rock Mountain Co., Ltd. မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးကျောက် ထုတ်လုပ်မှုအားလုပ်ကိုင် ဆောင်ရွက်ခြင်းဖြင့် ဒေသခံပြည်သူများမှ အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုရရှိနိုင်မည်ဖြစ်ပြီး ဒေသဖွံ့ဖြိုးရေးအတွက် အကောင်အထည် ဖော်ဆောင်ရွက်ပေးမည်ဖြစ်သဖြင့် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်ရေး အတွက် အထောက်အကူပြုမည်ဖြစ်ကြောင်း၊ အဆိုပြု လုပ်

ငန်းဆောင်ရွက်ခြင်း အပေါ် အနီးအနား ဝန်းကျင်ရှိ ရပ်ရွာလူထု၏ သဘော ထားအမြင်များကို သိရှိနိုင်ရန် အတွက် ကျေးရွာ အုပ်ချုပ်ရေးမှူး၊ ရပ်မိရပ်ဖ၊ ကျေးရွာအထောက်အကူပြုအဖွဲ့၊ ကျောင်းဆရာ၊ ရွာသူ/သားများနှင့် ဆွေးနွေးမှုအရ ကန့်ကွက်ရန်မရှိကြောင်းနှင့် Myanmar Rock Mountain Co., Ltd. မှ အဆိုပြုထားသည့် တနင်္သာရီတိုင်း ဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေ ဧရိယာ(၄၈)ဧကနှင့် ဇာဒီကျေးရွာအုပ်စု၊ ဦး ပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆) ရှိဧရိယာ (၁၄.၇၁)ဧကတို့သည် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင် ရွက်မည့် မြေနေရာ ဖြစ်ကြောင်း၊ ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်း သုံးစွဲ ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်း သိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်းနှင့် နိုင်ငံခြားဝင်ငွေရရှိမှု တိုးတက်လာနိုင်ခြင်း တို့ကြောင့် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါ ကြောင်းထောက်ခံပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**မှ အောက်ပါ အတိုင်း သဘောထားပြန်ကြားလာပါသည်-

(၁) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံ ချက်များ ရေးဆွဲချမှတ်ခြင်းနှင့် ထုတ်လုပ်ခြင်းလုပ်ငန်းစဉ် အဆင့်ဆင့် တွင် စီမံကိန်းဆိုင်ရာ အချက် အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင် ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်ကုန် ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်းတို့ ပြုလုပ်ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြ ပါရှိ သည့် လူမှုရေးဆိုင်ရာ တာဝန် ခံမှု (CSR) အား အသားတင် အမြတ်ငွေ၏ ၂%ကို အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များအား လုပ်ငန်းစီမံချက်များပါ အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၂) လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံးဖြစ်စေရေး တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environment Impact Assessment-EIA) လုပ်ငန်းကို ဆောင်ရွက်ပြီး အစီရင်ခံစာ တင်ပြရန်။

(၃) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်

(၄) အစီရင်ခံစာအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်၊ သက်ဆိုင်ရာတိုင်းဒေသကြီး နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီလိုက်နာမည်ဖြစ်ကြောင်းနှင့် EMP၊ EIA တို့ကို E Guard Environmental Services Co., Ltd. ဖြင့် စာချုပ်ချုပ်ဆိုကာ လုပ်ငန်းဆောင်ရွက်နေပါကြောင်း ဝန်ခံကတိပြုတင် ပြထားပါသည်။)**

**နောက်ဆက်တွဲ-ခ**

၉။ ကျပ်ငွေအထောက်အထားအဖြစ် CB ဘဏ်တွင် Myanmar Rock Mountain Co., Ltd. အမည်ဖြင့် ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၃ ရက်နေ့ ရက်စွဲဖြင့် ကျပ် ၇၃,၉၆၅,၀၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ကြောင်း၊ နိုင်ငံတော်အတွက် စီးပွားရေးလုပ်ငန်း လုပ်ကိုင်သော အခြေခံ စီးပွားရေးလုပ်ငန်း အဆောက်အအုံကို အထောက်အကူပြုသော လုပ်ငန်းဖြစ်ကြောင်း၊ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ် ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် သဘာဝဘေး အန္တရာယ် ကြိုတင်ကာကွယ်မှု အတွက် လည်း အစီအမံများ ပြုလုပ်မည့်အပြင် ကျောက်ထုတ်လုပ်ငန်းမှ ထွက်ရှိလာသော စွန့်ပစ်မြေဇာများကို စနစ်တကျ စွန့်ပစ်ခြင်း တို့လုပ်ဆောင်သွားမည်ဖြစ်ကြောင်း၊ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ ဥပဒေများ၊ နည်းဥပဒေ များ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံး လုပ်နည်း များနှင့်အညီ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၁။ ကုမ္ပဏီမှ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်၊ အလုပ်အကိုင်သစ် ပေါ်ပေါက်လာမည့် အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ဝင်ငွေခွဲခန်ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံ

ချက်အစီအစဉ် စသည်တို့ကို တင်ပြထားပါသည်။ လူမှုရေးဆိုင်ရာ တာဝန်ယူမှုများ (Corporate Social Responsibility-CSR) အတွက် နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ထမ်းဆောင်ပြီးနောက် ကျန်ရှိသော အသားတင်အမြတ်၏ ၂ % ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ **လျှပ်စစ်ဓာတ်အားသုံးစွဲမှုစီမံချက်အနေနှင့်** ကုမ္ပဏီမှ ပုံမှန်လျှပ်စစ်ဓာတ်အားကို သုံးစွဲမည်ဖြစ်ပြီး ပုံမှန်လျှပ်စစ်ဓာတ်အား ရရှိမှု မလုံလောက်ပါက (400 KVA) Generator တစ်လုံး၊ (100 KVA) Generator တစ်လုံး၊ Powermax Generator (625 KVA) နှစ်လုံးတို့ဖြင့် အားဖြည့်သုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ် (၁၂)ရှိ မြေဧရိယာ(၄၈) ဧက ကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံး ကျောက်များ ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ် (မူကြမ်း)၊ ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆) ၊ ဇာဒီကျေးရွာအုပ်စု၊ ရေဖြူ မြို့နယ်ရှိ မြေ ၁၄.၇၁ ဧက (၅၉,၅၂၉.၃၁၀၆ စတုရန်းမီတာ) ၏ ပိုင်ဆိုင်မှု အထောက်အထားများ တင်ပြထားပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ လမ်းခင်းကျောက်ထုတ်ရာတွင် အသုံးပြုမည့် အမိုးနီးယားများအား အမှတ်(၄၀၇)၊ ခြေမြန်တပ်ရင်း၊ ရေဖြူမြို့နယ်တွင် သိုလှောင်ရန်ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ လမ်းခင်းကျောက် ထုတ်လုပ်ခွင့်လိုင်စင် မှတ်ပုံတင်အမှတ် (၂/၂၀၁၅-၂၀၁၆)(၁၅-၅-၂၀၁၅ မှ ၁၄-၅-၂၀၁၆ အထိ) (၁)နှစ် ထုတ်ပေးထားကြောင်း အထောက်အထား တင်ပြထားပါသည်။

(ဃ) ရေဖြူမြို့နယ်၊ သစ်တောဦးစီးဌာန၊ ဒိုက်တကော်ကျေးရွာ၊ ရာအိမ်မှူးနှင့် ကုမ္ပဏီမှ တာဝန်ရှိသူများ ကွင်းဆင်းစစ်ဆေးခြင်း အစီရင်ခံစာ၊ Myanmar Rock Mountain Co., Ltd. မှ လမ်းခင်းကျောက်ထုတ်လုပ်ရန်အတွက် လျှောက်ထားသည့် မြေဧရိယာ ၄၈ ဧကနှင့် ဆက်စပ်မြေများအားပြသည့် အခြေပြမြေပုံ(၃)ခုအား ခန့်မှန်းခြေမြေပုံ အညွှန်းတို့နှင့်တကွ အသေးစိတ် တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက်ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ Myanmar Rock Mountain Co., Ltd. မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ် (၁၂)ရှိ မြေဧရိယာ(၄၈) ဧက ကို ငှားရမ်း၍ သော်လည်းကောင်း၊ တနင်္သာရီတိုင်းဒေသကြီး၊ ရေဖြူမြို့နယ်၊ ဇာဒီကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆) ရှိ မြေ ၁၄.၇၁ ဧက (၅၉,၅၂၉.၃၁၀၆ စတုရန်းမီတာ) တွင်သော်လည်းကောင်း လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေး လုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Rock Mountain Co., Ltd. မှ လမ်းခင်း ကျောက် နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Myanmar Rock Mountain Co., Ltd.<br>ဒေါ်သူသူမြင့်(အဘ-ဦးခင်မောင်မြင့်) |
| ၂။ | ဖွဲ့စည်းမှုပုံသဏ္ဌာန် | - လီမိတက်ကုမ္ပဏီ (Private Company ဖြစ်ပါသည်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - လမ်းခင်းကျောက်နှင့်ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ခြင်း နှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၄။ | တည်နေရာ | - (၁) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောဝန်ကြီးဌာန၊သစ်တောဦးစီးဌာနပိုင် အကွက်အမှတ်-၁၂၊ ဘဝါကြိုးဝိုင်း၊ ရေဖြူမြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီး<br>- (၂) ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆)၊ ဇာဒီ ကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်၊ တနင်္သာရီတိုင်းဒေသကြီး |
| | မြေဧရိယာ | - (၁) အကွက်အမှတ်-၁၂၊ ဘဝါကြိုးဝိုင်း၊ ရေဖြူမြို့နယ်၊ ထားဝယ်ခရိုင်၊ တနင်္သာရီတိုင်းဒေသကြီးရှိ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနပိုင် မြေဧရိယာ (၄၈) ဧက (၁၉၄,၂၄၉.၂၈ စတုရန်းမီတာ)<br>- (၂) ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆)၊ ဇာဒီကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်၊ ရှိ စုစုပေါင်းမြေ ၁၄.၇၁ ဧက (၅၉၅၂၉.၃၁၀၆ စတုရန်းမီတာ) |
| | နှစ်စဉ်မြေငှားရမ်းခ | - (၁) သစ်တောဦးစီးပိုင်မြေဧရိယာ (၁)ဧကလျှင် ကျပ် ၁၅,၀၀၀ နှုန်းဖြင့် (၄၈) ဧကအတွက် ၇၂၀,၀၀၀ ကျပ်။<br>(လုပ်ငန်းအာမခံငွေအဖြစ် (၁)ဧကလျှင် ကျပ် ၅၀,၀၀၀ နှုန်းဖြင့် (၄၈) ဧကအတွက် ကျပ်၂,၄၀၀,၀၀၀ အား စာချုပ် မချုပ်ဆိုမီ ပေးသွင်းရမည်ဖြစ်သည်။)<br>- (၂) ရင်းနှီးမြှုပ်နှံမှုအဖြစ် ထည့်ဝင်ထားပါသည်။ |

| | | |
|---|---|---|
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁,၅၀၀ သန်း |
| | | **ကျပ်ငွေ (သန်း)** |
| | ငွေသား | ၄၄၁.၁၇၄ |
| | စက်ပစ္စည်း(ပြည်တွင်းဝယ်) | ၇၃၃.၃၉၇ |
| | အဆောက်အဦ | ၂၂၇.၀၇၀ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၉၈.၃၅၉ |
| | **စုစုပေါင်း** | **၁,၅၀၀.၀၀၀** |
| ၆။ | တည်ဆောက်ရေးကာလ | - ၁၁ လ |
| ၇။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| ၈။ | အမျိုးအစားနှင့်နှုန်းထား (၆နှစ်မြောက်) | |

| ထုတ်လုပ်မည့် အမျိုးအစား | တစ်ကျင်းဈေးနှုန်း (ကျပ်) | ထုတ်လုပ်မည့် ကျင်းပေါင်း |
|---|---|---|
| Chipping 0 - 25 mm | ၃၈,၀၀၀ | ၃၀,၀၀၀ |
| 2 - 4 Inches | ၃၅,၀၀၀ | ၃၅,၀၀၀ |
| 6 - 9 Inches | ၃၂,၀၀၀ | ၃၅,၀၀၀ |
| Other size | ၂၅,၀၀၀ | ၃၅,၀၀၀ |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းအင်အား(ပြည်တွင်း) | - ၁၀၀ ဦး (အမြင့်ဆုံးလစာ - ၅၀၀,၀၀၀ ကျပ်<br>အနိမ့်ဆုံးလစာ - ၉၀,၀၀၀ ကျပ်) |
| | ဝန်ထမ်းအင်အား(ပြည်ပ) | - ၃ ဦး (တစ်လလစာ - ၁,၈၀၀,၀၀၀ ကျပ်) |
| ၁၀။ | ဝင်ငွေ (၆နှစ်မြောက်) | - ကျပ် ၄.၃၆၀ သန်း |
| | အသုံးစရိတ် (၆နှစ်မြောက်) | - ကျပ် ၃.၇၇၀ သန်း |
| | အသားတင်အမြတ် (၆နှစ်မြောက်) | - ကျပ် ၀.၅၉၀ သန်း |
| ၁၁။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၀.၁၉၇ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၀.၂၁၈ သန်း |
| ၁၂။ | အရင်းကြေကာလ | - ၄ နှစ်၊ ၉ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၃.၉၈ % |
| ၁၃။ | ဓာတ်ဆီ/ ဒီဇယ် အင်ဂျင်စက်အား (နှစ်စဉ်) | - ၂,၀၀၀ KV |

| | | |
|---|---|---|
| | ဒီဇယ်ဆီလိုအပ်မှု (နှစ်စဉ်) | - ဂါလံ ၇၀,၀၀၀ |
| ၁၄။ | ငွေကြေးအထောက်အထား | - Myanmar Rock Mountain Co., Ltd. သည် ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၃ ရက်နေ့ ရက်စွဲဖြင့် CB ဘဏ်တွင် မြန်မာကျပ် (၇၃.၉၆၅) သန်းရှိကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | CSR | - နှစ်စဉ်အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုမည်ဟု တင်ပြထားပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် နောက်ဆက်တွဲ (က)

တိုင်းဒေသကြီးအစိုးရအဖွဲ့

တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၅၇၇၁ /၇၂၀/ ၇-၂၀/ အဖရ(တနင်္သာရီ)

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁.၉.၂၀၁၅) ရက်စွဲပါ စာအမှတ်၊ ရက- ၅ (အ)၊ မ-၀၀၃/ ၂၀၁၅ (၂၇၇-က)

14-669
2.10.15

၁။ Myanmar Rock Mountain Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘ၀ါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် နှစ်ရှည်မြေငှားရမ်းစနစ်ဖြင့် ငှားရမ်း၍ သော်လည်းကောင်း၊ ရေဖြူမြို့နယ်၊ ဇာဒီကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N- ၅၇၀၊ N- ၆၈၆၊ N- ၈၅၆) ရှိ ဧရိယာ(၁၄.၇၁)ဧက (၅၉၅၂၉.၃၁၀၆)စတုရန်းကီလိုမီတာတွင်လည်းကောင်း၊ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာမှုအပေါ် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ အနေဖြင့် အောက်ဖော်ပြပါသဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာမှုနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) Myanmar Rock Mountain Co., Ltd မှ လျှောက်ထားသည့် မြေနေရာသည် ရေဖြူမြို့မှ (၂၃)မိုင်ခန့် အကွာအဝေးတွင် တည်ရှိသဖြင့် ရေဖြူမြို့၏ နောင်တွင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊

(ခ) Myanmar Rock Mountain Co., Ltd မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်မှုအား လုပ်ကိုင်ဆောင်ရွက်ခြင်းဖြင့် ဒေသခံပြည်သူများမှ အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိနိုင်မည်ဖြစ်ပြီး ဒေသဖွံ့ဖြိုးရေးအတွက် အကောင်အထည်ဖော် ဆောင်ရွက်ပေးမည်ဖြစ်သဖြင့် အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်ရေးအတွက် အထောက်အကူပြုမည်ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းအပေါ် အနီးအနားဝန်းကျင်ရှိ ရပ်ရွာလူထု၏ သဘောထားအမြင်များကို သိရှိနိုင်ရန်အတွက် ကျေးရွာအုပ်ချုပ်ရေးမှူး၊ ရပ်မိရပ်ဖ၊ ကျေးရွာအထောက်အကူပြုအဖွဲ့၊ ကျောင်းဆရာ၊ ရွာသူ/သားများနှင့် ဆွေးနွေးမှုအရ ကန့်ကွက်ရန်မရှိကြောင်းနှင့် လူမှုရေး၊ စီးပွားရေး၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိကြောင်း၊

(ဃ) Myanmar Rock Mountain Co., Ltd မှ အဆိုပြုထားသည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကနှင့် ဓာဒီကျေးရွာအုပ်စု၊ ဦးပိုင်အမှတ် (N- ၅၇၀၊ N- ၆၈၆၊ N- ၈၅၆) ရှိ ဧရိယာ(၁၄.၇၁)ဧကတို့သည် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်မည့်မြေနေရာဖြစ်ကြောင်း၊

၂။ သို့ဖြစ်ပါ၍ အဆိုပါကုမ္ပဏီမှ အဆိုပြုတင်ပြလာမှုအပေါ် စိစစ်တွေ့ရှိချက်များအရ နောင်ပြုလုပ်မည့် သို့မဟုတ် လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်နိုင်ခြင်း၊ ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်းသုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်းနှင့် နိုင်ငံခြားဝင်ငွေရရှိမှု တိုးတက်လာနိုင်ခြင်းတို့ကြောင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

(signature)

ဝန်ကြီးချုပ်(ကိုယ်စား)
(တင်သိန်း၊ အတွင်းရေးမှူး)

မိတ္တူကို

Myanmar Rock Mountain Co., Ltd
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ (ခ)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

MDI-4514
29.9.15

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၆၁၁ /၂၀၁၅)

ရက်စွဲ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၈ ရက်

သို့

14-628
30.9.15

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၅ (အ) / မ - ၀၀၃ / ၂၀၁၅ (၂၇၈)

၁။ Myanmar Rock Mountain Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး ၊ ထားဝယ်ခရိုင် ၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်- ၁၂ ရှိ မြေ(၄၈)ဧကအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနမှ နှစ်ရှည်မြေငှားရမ်း စနစ်ဖြင့် ငှားရမ်း၍သော်လည်းကောင်း၊ ဦးပိုင်အမှတ် (N-၅၇၀ ၊ N-၆၈၆ ၊ N-၈၅၆) ၊ ဇာဒီကျေးရွာအုပ်စု ၊ ရေဖြူမြို့နယ်ရှိ စုစုပေါင်းမြေ(၁၄.၇၁)ဧက(၅၉၅၂၉.၃၁၀၆စတုရန်းမီတာ)တွင်လည်းကောင်း၊ လမ်းခင်းကျောက်နှင့်ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ပြန်လည်တင်ပြပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရာ၌ ကျောက်ခွဲခြင်းလုပ်ငန်း အဆင့်ဆင့်တွင် စက်သုံးဆီ ၊ ယမ်းကဲ့သို့သော ကုန်ကြမ်းပစ္စည်းများ အသုံးပြုမည် ဖြစ်ပါသောကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့် လေထုတို့အားညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပြီး လုပ်ငန်းအဆင့်ဆင့်တွင် စက်များ အသုံးပြု၍ ဆောင်ရွက်မည်ဖြစ်ပါသဖြင့် အသံဆူညံခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ Myanmar Rock Mountain Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး ၊ ထားဝယ်ခရိုင် ၊ ရေဖြူမြို့နယ် ၊ ဘဝါကြိုးဝိုင်း ၊ အကွက်အမှတ် ( ၁၂ ) ၊ ခန့်မှန်းမြေပုံညွှန်း 95 - F ( A-904017, B-907017 , C-909014 , D-909013 , E-908011,F-904012) အတွင်းရှိ မြေဧရိယာ ( ၄၈ ) ဧကတွင် လမ်းခင်းကျောက်ထုတ်လုပ်ခြင်းအား ဤပြည်ထောင်စုဝန်ကြီးရုံးမှ ခွင့်ပြုချက်အရ သက်ဆိုင်ရာ ကုမ္ပဏီ နှင့် သစ်တောဦးစီးဌာနတို့ကြား နှစ်စဉ်စာချုပ်ချုပ်ဆိုပြီးဖြစ်ရာ နှစ်ရှည်မြေငှားရမ်း စနစ်ဖြင့် ပြောင်းလဲဆောင်ရွက်မည်ဆိုပါက သစ်တောသစ်ပင်များ ခုတ်လှဲထိခိုက်ပျက်စီးခြင်း မရှိစေရေး၊ သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မရှိစေရေး ၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊နည်းဥပဒေများ၊ညွှန်ကြားချက်များ လိုက်နာစေရေးနှင့်ဒေသခံပြည်သူ

များ နှင့် ညှိနှိုင်းသဘောတူညီချက် ရရှိရေးတို့ကို လိုအပ်မည်ဖြစ်ပါကြောင်း နှင့် သစ်တောနယ်မြေအတွင်း ကျရောက်ခြင်းမရှိသည့် ဇာဒီကျေးရွာအုပ်စု ၊ ဦးပိုင်အမှတ် ( N-၅၇၀ ၊ N-၆၈၆ ၊ N-၈၅၆) ၊ ရှိ ( ၁၄.၇၁ ) ဧက ( ၅၉၅၂၉.၃၁၀၆ စတုရန်းမီတာ ) အား သစ်တောဥပဒေ ပုဒ်မ-၁၂(က) အရ “မည်သူမဆို သစ်တောနယ်မြေနှင့် သစ်တောဖုံးလွှမ်းလျှက်ရှိသည့် အစိုးရက စီမံခန့်ခွဲပိုင်ခွင့်ရှိ သောမြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း သို့မဟုတ် စီးပွားရေးစီမံကိန်း တစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်” ဟူသည့် ပြဋ္ဌာန်းချက် နှင့် အညီ အစိုးရက စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေအတွင်း သစ်တောဖုံးလွှမ်းမှုရှိသော ဧရိယာဖြစ်ပါ၍ အပင်များကို ခုတ်ထွင်ရှင်းလင်းခြင်းမပြုရန်ခုတ်ထွင်ရှင်းလင်းရန်လိုအပ်ပါက သစ်တောဦးစီးဌာနသို့ ကြိုတင်ခွင့်ပြုချက် တင်ပြတောင်းခံရန်နှင့်သက်ဆိုင်ရာ မြေစီမံခန့်ခွဲပိုင်ခွင့်ရှိသော ဌာန ၊ အဖွဲ့အစည်း ၊ ဒေသအုပ်ချုပ်ရေးအဖွဲ့များ၏ သဘောထားမှတ်ချက်ရယူဆောင်ရွက်သွားမည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ဖော်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar Rock Mountain Co.,Ltd မှ လမ်းခင်းကျောက်နှင့်ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းနှင့် ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် လုပ်ငန်းစီမံချက်များ ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်တွင် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များအသုံးပြုခြင်း၊ အဆိုပြုလွှာတွင်ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility- CSR) လုပ်ငန်းများအတွက် အမြတ်ငွေ၏ (၂%)အားအသုံးပြုရန်အပါအဝင်ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး( သို့မဟုတ် ) အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment- EIA ) လုပ်ငန်းကိုဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြရန်၊

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီး / ပြည်နယ်အစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

(စ) သက်ဆိုင်ရာ မြေစီမံခန့်ခွဲပိုင်ခွင့်ရှိသော ဌာန၊ အဖွဲ့အစည်း၊ ဒေသအုပ်ချုပ်ရေးအဖွဲ့များ၏ သဘောထားမှတ်ချက်ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၃(၂)/၁၆(ဃ)(၃)/( ၇၀၉၂ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၅(အ) / မ- ၀၀၃/ ၂၀၁၅ (၃၂၀)

၁။ Myanmar Rock Mountain Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး ၊ ထားဝယ်ခရိုင် ၊ ရေဖြူမြို့နယ်အတွင်း လမ်းခင်းကျောက်များ တိုးချဲ့ထုတ်လုပ်လိုပါသဖြင့် နှစ်စဉ်မြေငှားစနစ်အစား နှစ်ရှည်ထုတ်လုပ်ခွင့်ပြုရန်အတွက် သစ်တောဦးစီးဌာနမှ ခွင့်ပြုချက်ရရှိထားသော မြေဧရိယာ (၄၈)ဧကအား အနှစ်(၃၀)နှစ်ရှည်ငှားရမ်းပြီး ဆောက်လုပ်ရေး လုပ်ငန်းသုံးကျောက် ထုတ်လုပ်မှုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလျှောက်ထားခြင်းအပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုချက်နှင့်အညီ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း စာချုပ်(မူကြမ်း) စိစစ်၍ ပြန်လည်တင်ပြပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar Rock Mountain Co., Ltd သို့ ဆောက်လုပ်ရေး လုပ်ငန်းသုံး တိုးချဲ့ထုတ်လုပ်ရန်အတွက် နှစ်ရှည်မြေငှားစနစ်ဖြင့် ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်များအတိုင်း စာချုပ်(မူကြမ်း) ကို ပြန်လည် ပြင်ဆင်ပြီးဖြစ်ပါ၍ လိုအပ်သည်များ ဆက်လက်ဆောင်ရွက်နိုင်ပါရန် ပူးတွဲပေးပို့အပ်ပါသည်။

၂၂/၁၁

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွှန့်၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

D:\DKWWT\DSSY\November\November DSSY.docx 3

| | |
|---|---|
| သစ်တောဦးစီးဌာန<br>စီမံကိန်းနှင့်စာရင်း ဌာနခွဲ | |
| ရက်စွဲ | ၃၀. ၁၀. ၁၅ |
| ဝင်စာအမှတ် | ၂၂၈၄ |
| အချိန် | ၉ ၊ ၃၀ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၁၉၁ / နပတ(၁၀၈၄)

ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ၂၆ ရက်

အကြောင်းအရာ။ သစ်တောဦးစီးဌာနနှင့် မြန်မာ့ရှော့(ခ်)မောင်တိန်းကုမ္ပဏီလီမိတက်တို့ အကြားချုပ်ဆိုမည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ် (၁၂)ရှိမြေဧရိယာ(၄၈)ဧကအားငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၏ ၁၄-၁၀-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ စီမံကိန်း/ သတ္တု / ( ၁၉၆၁၂.၁၄ / ၂၀၁၅)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိမြေဧရိယာ(၄၈)ဧက အားငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်း လုပ်ကိုင်ရန်အတွက် သစ်တောဦးစီးဌာနနှင့် မြန်မာ့ရှော့(ခ်)မောင်တိန်းကုမ္ပဏီလီမိတက်တို့ အကြားချုပ်ဆိုမည့် မြေဧရိယာ(၄၈)ဧက အား ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက် ပါစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စဖြစ်ပါသည်။

၂။ ရည်ညွှန်းချက်ပါစာဖြင့်ပေးပို့လာသောစာချုပ်(မူကြမ်း)အားဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) ပါ မြေဧရိယာသည် ဘဝါကြိုးဝိုင်းအတွင်း ကျရောက်နေပါသဖြင့် စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ပြုနိုင်ခြင်းရှိ မရှိ ဌာနမှ ပြန်လည်စိစစ်သင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) အပိုဒ် ၂ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း၌ "အငှားချထားသူက" အဆိုပါ"ဘဝါကြိုးဝိုင်းနှင့်ပတ်သက်၍ တရားဝင်ဆောင်ရွက်ခွင့်ရှိကြောင်း"ဟုဖော်ပြထားပါသည်။ တရားဝင်ဆောင်ရွက်ခွင့်သည် စာချုပ်ပါရည်ရွယ်ချက်ကိုဆိုလိုကြောင်း သဘောရရှိ၍ မင်နီဖြင့်ဖြည့်စွက် ပေးလိုက်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း)အပိုဒ် ၃ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်၊ အပိုဒ်ခွဲ (က)၌ မြေဧက(၄၈)အား (မြေပုံနောက်ဆက်တွဲ က) ဟု ရည်ညွှန်းထားပါသည်။ သို့သော် စာချုပ်(မူကြမ်း)၌ နောက်ဆက်တွဲ(က) ပူးတွဲပါရှိလာခြင်းမရှိသဖြင့် ဌာနမှပြန်လည်စိစစ်ရန်နှင့် စာချုပ်ချုပ်ဆိုချိန်၌ နောက်ဆက်တွဲများ ပြည့်စုံစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၃ လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်၊ အပိုဒ်ခွဲ (ဃ)၌ "တစ်နှစ်လျှင် တစ်ကြိမ်အတွက် မြေငှားရမ်းခ--------- ပေးသွင်းမည်ဖြစ်ပါသည်" ဟု ဖော်ပြထားရာ အဆိုပါစာပိုဒ်မှာ ငွေပေးသွင်းမှုနှင့်သက်ဆိုင်သောကြောင့် အပိုဒ် ၅ ခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၅(က)၌ ဖော်ပြထားသည့် "ပုံသေသတ်မှတ်ခြင်းမပြုလုပ်ဘဲ တစ်ချိန်တွင်" ဆိုသည့်စကားရပ်မှာ ရှင်းလင်းမှုမရှိပါသဖြင့် အချိန်ကာလသတ်မှတ်ချက်အနေဖြင့် တစ်နှစ်လျှင်တစ်ကြိမ် သို့မဟုတ် လုပ်ငန်း

လိုအပ်ချက်အရ နှစ်မည်မျှတွင်တစ်ကြိမ် ဥာနမှဌားရမ်းခကို ပြန်လည်သုံးသပ်မည်ဖြစ်ကြောင်း ရှင်းလင်းစွာဖော်ပြသင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၅(ခ)၌ "အငှားချထားခြင်းခံရသူသည် မြေငှားရမ်းခများကို အငှားချထားသူထံသို့ ပထမနှစ်အတွက် သတ်မှတ်ထားသောအခွန်ငွေကိုစာချုပ်မချုပ်ဆိုမီကြိုတင်ပေးသွင်းရမည်"ဟု ဖော်ပြထားပါသည်။ သတ်မှတ်ထားသည့် အခွန်ငွေဆိုသည့်စကားရပ်မှာ မြေငှားရမ်းခကိုဆိုလိုသည်ဟု ယူပါသောကြောင့် ဥာနမှပြန်လည်စိစစ်ပြီး ရှင်းလင်းစွာဖော်ပြ ရန်ဖြစ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) ၌ ငှားရမ်းမည့်မြေ၏ တည်နေရာဒေသ၊ လိပ်စာအပြည့်အစုံ၊ ဧရိယာအကျယ်အဝန်းတို့ကို သီးခြားခေါင်းစဉ်ဖြင့်ဖော်ပြရန် လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)အပိုဒ် ၇ အငှားချထားခြင်းခံရသူ၏လိုက်နာရမည့်စည်းကမ်းချက်များနှင့် အခွင့်အရေးများ၊ အပိုဒ်ခွဲ(ဈ)၌ "---------မြေဧရိယာ (၄၈) ဧက၏ ၂၀% ကို ရေမြေထိန်းသိမ်းရေးသစ်တောစိုက်ခင်းအဖြစ် ---------တည်ထောင်စိုက်ပျိုးပေးရမည်။" ဟု ဖော်ပြထားပါသည်။ အဆိုပါ ရေမြေထိန်းသိမ်းရေးသစ်တောစိုက်ခင်းကို စာချုပ်ချုပ်ဆိုပြီး အချိန်ကာလမည်မျှအတွင်း တည်ထောင်စိုက်ပျိုးပေးရမည်ဖြစ်ကြောင်း ဖော်ပြထားခြင်းမရှိသဖြင့် တည်ထောင်စိုက်ပျိုးရမည့်အချိန်ကာလကို ဖော်ပြသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း) အပိုဒ် ၉ စာချုပ်သက်တမ်းကာလ၌ "ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ(၃၀)နှစ်ကို --------- စတင်ရေတွက်သွားမည်ဖြစ်သည်။" ဟု ငှားရမ်းကာလကိုသာ ဖော်ပြထားပြီး စာချုပ်သက်တမ်းအားဖော်ပြထားခြင်းမရှိသည်ကို တွေ့ရှိရပါသည်။ ခေါင်းစဉ်နှင့် ဖော်ပြချက်ကိုက်ညီမှုမရှိ၍

ခြင်းမပြုရ၊" ဆိုသောအချက်အား ထည့်သွင်းဖော်ပြရန်သင့်မသင့် ဌာနအနေဖြင့် စဉ်းစား သင့်ပါသည်၊

(ဍ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ဖြည့်စွက်ပေးလိုက်ပါသည်။

၄။ တံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၉ အရ အစိုးရတံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်မရရှိသေးလျှင် ကျသင့်သောတံဆိပ်ခေါင်းခွန်ကို အငှားချထားခြင်းခံရသူမှ ထမ်းဆောင်ရမည် ဖြစ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်း ဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။ ဤစာချုပ်ကို ချုပ်ဆိုနိုင်ရန်အတွက် သစ်တောဦးစီးဌာနအနေဖြင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပိုင်ခွင့်ရှိရန်လိုအပ်ကြောင်း ဖော်ပြအပ်ပါသည်။

၆။ မြန်မာ့ရှေ့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်သည် ဥပဒေအရတရားဝင် ဖွဲ့စည်းထားသည့်ကုမ္ပဏီဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်ခွင့်နှင့်လုပ်ကိုင်နိုင်စွမ်းရှိ မရှိ၊ ငွေကြေးအင်အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်း ခံရသူဟုတ် မဟုတ် စသည်တို့ကို ကြိုတင်စိစစ်ရန်လိုအပ်မည်ဖြစ်ပါသည်။

၇။ စာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားရှိနိုင်ရန်အတွက် ဤရုံးသို့ စာချုပ်မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ပြန်လည်စိစစ်ရန်နှင့် ငှားရမ်းကာလအား သီးခြားခေါင်းစဉ်ဖြင့် ဖော်ပြရန် လိုအပ်ပါသည်။ ထို့အပြင် စာချုပ်သက်တမ်းနှင့် ငှားရမ်းကာလတို့ ကိုက်ညီရန်လိုအပ်ပါသည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၁၀ စာချုပ်သက်တမ်းကုန်ဆုံးခြင်း၌ “ဤစာချုပ်သက်တမ်းသည် ..------- (သို့) စာချုပ်ပါလုပ်ငန်းများကို “အငှားချထားခြင်းခံရသူ” နှင့် “အငှားချထားသူ” တို့ အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးသည့်နေ့တွင်ကုန်ဆုံးသည်ဟုမှတ်ယူရမည်။” ဟု ဖော်ပြထားပါသည်။ စာချုပ်သက်တမ်းကုန်ဆုံးသော်လည်း သို့မဟုတ် ငှားရမ်းကာလပြည့်မြောက်သော်လည်း စာချုပ်ပါလုပ်ငန်းများကို အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးစီးခြင်းမရှိပါက စာချုပ်သက်တမ်း သို့မဟုတ် ငှားရမ်းကာလ မကုန်ဆုံးသေးသည့်သဘောသက်ရောက်နေပါသည်။ ထို့အပြင် စာချုပ် (မူကြမ်း) အပိုဒ် ၉ တွင်စာချုပ်သက်တမ်းကာလကိုနှစ်(၃၀)ဟုဖော်ပြထားရာစည်းကမ်းချက်ချင်းကိုက်ညီခြင်းမရှိဟု သုံးသပ်ရရှိပါသည်။ သို့ပါ၍ “စာချုပ်ပါလုပ်ငန်း များကို --------အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးစီး သည့်နေ့တွင် ကုန်ဆုံးသည်ဟုမှတ်ယူရမည်။”ဆိုသောစာသားအားပယ်ဖျက်ရန်လိုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၁၇ လုပ်ငန်းအာမခံငွေ၌ “အငှားချထားခြင်းခံရသူသည် စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက အဆိုပါလုပ်ငန်းအာမခံငွေကိုသိမ်းယူနိုင်သည်” ဆိုသော အချက်အား ထည့်သွင်းဖော်ပြရန်သင့် မသင့်စဉ်းစားသင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) ၌ “အငှားချထားခြင်းခံရသူသည် အငှားချထားသူ၏ကြိုတင် သဘောတူညီချက်မရရှိဘဲ မိမိ၏အခွင့်အရေးများ၊ လုပ်ပိုင်ခွင့်များ၊ စာချုပ်ပါ လုပ်ငန်းတို့ကို အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများအား လွှဲပြောင်းပေး

၈။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်(တာဝန်)

ညွှန်ကြားရေးမှူးချုပ်

သစ်တောဦးစီးဌာန

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန
## သစ်တောဦးစီးဌာန

နှင့်

မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုမည့် "တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ်"

၂၀၁၅ ခုနှစ်၊ လ၊ ( ) ရက်။

## သစ်တောဦးစီးဌာန

## နှင့်

## မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုမည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ်


| စဉ် | မာတိကာ | စာမျက်နှာ | |
|---|---|---|---|
| ၁။ | ရည်ရွယ်ချက် | ၁ | - |
| ၂။ | အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း | ၁ | - |
| ၃။ | အငှားချထားခြင်းခံရသူ၏ ကနဦးရင်းနှီးမြှုပ်နှံမှု | ၂ | - |
| ၄။ | ခွင့်ပြုမြေဧရိယာ(၄၈)ဧကတွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ | ၂ | - |
| ၅။ | လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ် | ၂ | - |
| ၆။ | အငှားချထားသူ၏ တာဝန်ဝတ္တရားများ | ၂ | ၃ |
| ၇။ | အငှားချထားခံရသူ၏လိုက်နာရမည့် စည်းကမ်းချက်များနှင့် အခွင့်အရေးများ | ၃ | ၅ |
| ၈။ | စာချုပ်စတင်အကျိုးသက်ရောက်သောနေ့ | ၅ | - |
| ၉။ | စာချုပ်သက်တမ်းကာလ | ၅ | - |
| ၁၀။ | စာချုပ်သက်တမ်းကုန်ဆုံးခြင်း | ၅ | - |
| ၁၁။ | လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် | ၅ | - |
| ၁၂။ | စာချုပ်သက်တမ်းတိုးမြှင့်ခြင်း | ၆ | - |
| ၁၃။ | စာချုပ်ရုပ်စဲခြင်း | ၆ | - |
| ၁၄။ | ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း | ၆ | - |
| ၁၅။ | ဓာတ်သတ္တုအရင်းအမြစ်များ | ၆ | - |
| ၁၆။ | ငှားရမ်းမြေအားပြန်လည်ရယူခွင့် | ၇ | - |
| ၁၇။ | လုပ်ငန်းအာမခံငွေ | ၇ | - |
| ၁၈။ | မလွန်ဆန်နိုင်သောဖြစ်ရပ်များ | ၇ | ၈ |
| ၁၉။ | စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း | ၈ | - |
| ၂၀။ | မြေပြန်လည်လွှဲပြောင်းပေးအပ်ခြင်း | ၈ | - |
| ၂၁။ | အငြင်းပွားမှုဖြေရှင်းခြင်း (အနုညာတစီရင်ခြင်း) | ၉ | - |
| ၂၂။ | စာပေးစာယူပြုလုပ်ရန်လိပ်စာများ | ၉ | - |
| ၂၃။ | လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ | ၉ | - |
| ၂၄။ | အထွေထွေ | ၁၀ | - |

(ခ) "အငှားချထားခြင်းခံရသူ"က လိုအပ်သောခွင့်ပြုချက်များ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြားလိုအပ်သော အချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်၊

(ဂ) "အငှားချထားခြင်းခံရသူ"က ငှားရမ်းသည့်ကာလအတွင်း လုပ်ပိုင်ခွင့်ရရှိထားသော မြေဧက(၄၈)ကို စည်းကမ်းချက်များနှင့်အညီ လက်ဝယ်ထား၍ ဆောင်ရွက်ခွင့်ရှိစေရန်အတွက် "အငှားချထားသူ"က သော်လည်းကောင်း ယင်း၏ကိုယ်စားပြုသူကလည်းကောင်း ဝင်ရောက်စွက်ဖက်ခြင်း၊ နှောက်ယှက်ခြင်းများမပြုရန် တာဝန်ယူရမည်၊

(ဃ) "အငှားချထားခြင်းခံရသူ" က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ စီမံကိန်းဆိုင်ရာ လုပ်ငန်းများအတွက် အခွန်အခကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူးခံစားခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

၇။ **အငှားချထားခံရသူ၏ လိုက်နာရမည့် စည်းကမ်းချက်များနှင့် အခွင့်အရေးများ**

(က) ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှုအားလုံးကို ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

(ခ) အငှားချထားသူက ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်မှုများ နှင့်ပတ်သက်၍ သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း အငှားချထားသူသို့ တင်ပြရမည်။

(ဂ) မြန်မာ့အာမခံဥပဒေနှင့်အညီ လိုအပ်သောအာမခံများကို သစ်တောဦးစီးဌာန၏ အမည်ဖြင့် ထားရှိရမည်။

(ဃ) ငှားရမ်းခကို သတ်မှတ်နှုန်းထားနှင့်သတ်မှတ်သော နည်းလမ်းများအတိုင်း သတ်မှတ်ချိန်အတွင်း အတိအကျပေးချေရမည်။

(င) ငှားရမ်းထားသော မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက် မရရှိဘဲ မည်သူ့ကိုမျှ တစ်ဆင့်ငှားရမ်းရောင်းချ၊ လွှဲအပ်၊ လွှဲပြောင်း၊ ပေါင်နှံ၊ ထုခွဲခြင်းမပြုရ။ ကိုယ်တိုင်လုပ်ကိုင်ခြင်းမရှိလျှင် သစ်တောဦးစီးဌာနသို့ ပြန်လည်အပ်နှံရမည်။

(စ) လုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း လုပ်ကိုင်ခွင့်ရရှိသူက ကွယ်လွန်လျှင် ၎င်း၏ အမွေဆက်ခံခွင့်ရရှိသူက ခိုင်လုံသောအထောက်အထားများ တင်ပြ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက် လုပ်ကိုင်ခွင့်ရှိသည်။

၃။ **အငှားချထားခြင်းခံရသူ၏ ကနဦးရင်းနှီးမြှုပ်နှံမှု**

(က)"အငှားချထားခြင်းခံရသူ" မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ရန်အတွက် ကနဦးရင်းနှီး မြှုပ်နှံမှုအဖြစ် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(၁) "အငှားချထားခြင်းခံရသူ" မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် တူးဖော်ထုတ်လုပ်ရန်အတွက် စက်ပစ္စည်းများ ဝယ်ယူမှုနှင့် လုပ်ငန်းလည်ပတ်ငွေများအပါအဝင် မြန်မာကျပ်ငွေ သန်းပေါင်း ၁၀,၀၀၀ (ကျပ် သန်းတစ်သောင်း)ကို ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွား မည်ဖြစ်သည်။

၄။ **ခွင့်ပြုမြေဧရိယာ(၄၈)ဧကတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ရောင်းချခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ**

(က) တစ်ဧကမြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်းမပြုလုပ်ပဲ တစ်ချိန်တွင် မြေငှားရမ်းခနှုန်းကို နိုင်ငံတော်မှ သတ်မှတ်သည့်အတိုင်း ပေးသွင်းရန်။

(ခ) “အငှားချထားခြင်းခံရသူ”သည် မြေငှားရမ်းခများကို “အငှားချထားသူ”ထံသို့ ပထမနှစ်အတွက် သတ်မှတ်ထားသော အခွန်ငွေကို စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်၊ နောက်နှစ်များတွင်လည်း နှစ်စဉ်ငှားရမ်းနှစ် မစတင်မီ ရက်ပေါင်း(၃၀)အတွင်း ကြိုတင်ပေးသွင်းရမည်။ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက နောက်ကျသည့် ရက်များအတွက် တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ်(၅၀၀၀)နှုန်း ပေးဆောင်ရပါမည်။

(ဂ) ငှားရမ်းသည့်စာချုပ်ကို လုပ်ငန်းစတင်မည့် ၂၀၁၅-၂၀၁၆ ခုနှစ်တွင် စာချုပ်ချုပ်ဆိုသွားမည်ဖြစ်ပြီး စာချုပ်သက်တမ်းကာလမှာ ၂၀၁၅ ခုနှစ်၊ (....)လ၊ (......)ရက်မှ ၂၀၄၅ ခုနှစ်၊ (......)လ၊ (......)ရက်အထိ နှစ် (၃၀) ဖြစ်ပါသည်။

၅။ **လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်**

(က) အငှားချထားသူ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ဘဝါကြီးဝိုင်း၊ အကွက်အမှတ် (၁၂) အတွင်းရှိ မြေဧက(၄၈)(မြေပုံနောက်ဆက်တွဲ-က)ကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ"သို့ တစ်နှစ်လျှင် တစ်ဧကအတွက် မြေငှားရမ်းခ မြန်မာကျပ်ငွေ (၁၅၀၀၀ဝ/-)နှုန်းဖြင့် ဧက(၄၈)အတွက် ၇၂၀၀၀ဝ/-(ငွေကျပ် ခုနှစ်သိန်း နှစ်သောင်း တိတိ)ကို ပေးသွင်းမည်ဖြစ်ပါသည်။

၆။ **အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

အငှားချထားသူသည်-

(က) သက်ဆိုင်ရာအုပ်ချုပ်ရေးအဖွဲ့အစည်းများထံမှ လိုအပ်သောခွင့်ပြုချက်များရယူရမည်၊

# သစ်တောဦးစီးဌာန

# နှင့်

# မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်တို့အကြား ချုပ်ဆိုမည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ်

## (မူကြမ်း)

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၅ ခုနှစ်၊ (                )လ(       )ရက်နေ့၌ ဒေါက်တာညီညီကျော်၊ ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)က တစ်ဖက်နှင့် ဒေါ်သူသူမြင့်၊ အုပ်ချုပ်မှုဒါရိုက်တာ (နိုင်ငံသားစိစစ်ရေးအမှတ်-၁၃/ကခန(နိုင်) ၀၁၆၈၅၆)၊ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ သံလွင်လမ်း၊ အမှတ်(၇၇-အေ) ကိုယ်စားပြုသော မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက် (နောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ခေါ်ဆိုရ မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ ဆက်ခံသူများနှင့်ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)တို့က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ သဘောတူညီချက်များနှင့်အညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည်။

## ၁။ ရည်ရွယ်ချက်

ဤစာချုပ်ကို ချုပ်ဆိုသည့်ရည်ရွယ်ချက်မှာ "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ" ပိုင်ဆိုင်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)အတွင်း မြေဧရိယာ(၄၈)ဧကတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ဆောင်ရန် ရည်ရွယ်ပါသည်။

## ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

"အငှားချထားသူ"က အဆိုပါ ဘဝါကြိုးဝိုင်းနှင့် ပတ်သက်၍ စာချုပ်ပါ ရည်ရွယ်ချက်အတိုင်း တရားဝင် ဆောင်ရွက်ခွင့် ရှိကြောင်း၊ "အငှားချထားသူ" နှင့် "အငှားချထားခြင်း ခံရသူ"တို့သည် သက်ဆိုင်ရာ တည်ဆဲ ဥပဒေများအရ၊ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့် ရှိသူများ ဖြစ်ပြီး၊ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤ စာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာရှိသူများ၊ ငွေကြေးအင်အား တောင့်တင်းသူများဖြစ်ကြောင်း အသီးသီး ကိုယ်စားပြု အာမခံကြပါသည်။

(ဆ) အငှားချထားခြင်းခံရသူသည် ခွင့်ပြုထားသည့် မြေဧရိယာတွင် လမ်းခင်းကျောက်တူးဖော်ထုတ်လုပ်ရာ၌ ကျောက်(၁)ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅% ဖြင့် စုစုပေါင်းထုတ်လုပ်သည့် လမ်းခင်းကျောက်ပမာဏ(ကျင်း)အတွက် ကျသင့်သော အခွန်ငွေကို သတ်မှတ်သည့် နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

(ဇ) အခွန်တော်ငွေများ ပေးသွင်းခြင်းကို သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသည့် နည်းလမ်းများနှင့်အညီ ပေးသွင်းရမည်။

(ဈ) သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုအတွက် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုထားသည့် မြေဧရိယာ(၄၈)ဧက၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် ကြီးကြပ်စစ်ဆေးရန် လွယ်ကူမည့် သစ်တောနယ်မြေတွင် (၃)နှစ်အတွင်း အပြီးတည်ထောင် စိုက်ပျိုးပေးရန် ဝန်ခံကတိပြုပြီး တည်ထောင်စိုက်ပျိုးပေးရမည်။

(ည) ကျောက်တူးဖော်ထုတ်လုပ်ရန် ခွင့်ပြုမြေဧရိယာ(၁)ဧကလျှင် လုပ်ငန်းအာမခံငွေ ကျပ် ၅၀၀၀၀ နှုန်းဖြင့် သစ်တောဦးစီးဌာနမှ သတ်မှတ်သည့် မြန်မာ့စီးပွားရေးဘဏ်တွင် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။

(ဋ) ကျောက်တူးဖော်မည့်ဧရိယာကို ထင်ရှားသောနယ်နိမိတ်သတ်မှတ်ရန်နှင့် ကုန်ကျစရိတ်ကို အငှားချထားခြင်းခံရသူမှ ကျခံရမည်။

(ဌ) ကျောက်တူးဖော်ခွင့်ပြုထားသည့် ဧရိယာအတွင်း၌သော်လည်းကောင်း၊ အပြင်၌သော်လည်းကောင်း၊ သစ်ပင်ခုတ်လှဲခြင်းမပြုလုပ်ရန်၊ မလွှဲမရှောင်သာ၍ ခုတ်လှဲရန် လိုအပ်ပါက သစ်တောဦးစီးဌာန၏ခွင့်ပြုချက်အရ ခွင့်ပြုချက်ကို ကြိုတင်ရယူရမည်။

(ဍ) သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်အရ ခုတ်လှဲပြီးသောသစ်ပင်များကို အသုံးပြုလိုပါက သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသော ဈေးနှုန်းဖြင့်ဝယ်ယူသုံးစွဲရမည်။

(ဎ) ကျောက်တူးဖော်သည့် လုပ်ငန်းဆောင်ရွက်နေစဉ် နေထိုင်ရန် ယာယီနေအိမ်တဲမှ အပ အခြားအခိုင်အမာအဆောက်အအုံများ ဆောက်လုပ်ခြင်းမပြုလုပ်ရ။

(ဏ) ကြိုးဝိုင်းအတွင်းကျောက်တူးဖော်ရာတွင် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သဖြင့် ထိခိုက်မှုအနည်းဆုံးဖြစ်မည့် ပေါက်ကွဲစေတတ်သော ပစ္စည်းများကိုသာ အသုံးပြု၍ တူးဖော်ရမည်။

(တ) လုပ်ကိုင်ခွင့်ရသည့်မြေကို ကျောက်တူးဖော်ခြင်းလုပ်ငန်းမှတပါး အခြားစီးပွားရေးလုပ်ငန်းများအတွက် အသုံးမပြုရ။

(ထ) ကျောက်ထုတ်လုပ်မည့်စာရင်းများကို ထုတ်လုပ်သူမှ စနစ်တကျပြုစုထားရှိပြီး လစဉ်တိုးတက်မှုကို နောက်လပထမပတ်အတွင်း သက်ဆိုင်ရာမြို့နယ် သစ်တောဦးစီးဌာန၊ ဦးစီးအရာရှိထံ လစဉ် တင်ပြရမည်။

(ဒ) ကျောက်ထုတ်လုပ်မည့် စာရင်းဇယားများနှင့် ကျောက်ထုတ်လုပ်မှုအခြေအနေကို သစ်တောဦးစီးဌာနမှ တာဝန်ရှိပုဂ္ဂိုလ်များအား အချိန်မရွေး ဝင်ရောက်စစ်ဆေးခွင့်ပြုရမည်။

(ဓ) ဖော်ပြပါစည်းကမ်းချက် တစ်စုံတစ်ရာကို ချိုးဖောက်ပါက ကျောက်တူးဖော် လုပ်ကိုင်ခွင့် ရုပ်သိမ်းခြင်းခံရမည်။

၈။ **စာချုပ်စတင်အကျိုးသက်ရောက်သောနေ့**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့ရက်မှ စတင်အကျိုးသက်ရောက်မှုရှိစေရမည်။

၉။ **စာချုပ်သက်တမ်းကာလ**

ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ(၃၀)နှစ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အတည်ပြုချက်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသော(...................)ရက်နေ့မှ (............)ရက်နေ့ထိ ဖြစ်ပါသည်။

၁၀။ **စာချုပ်သက်တမ်းကုန်ဆုံးခြင်း**

ဤစာချုပ်သက်တမ်းသည် စာချုပ်သက်တမ်း ပြည့်မြောက်သည့်နေ့ (သို့) စာချုပ်ပါလုပ်ငန်းများကို "အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ"တို့ အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးသည့်နေ့တွင် ကုန်ဆုံးသည်ဟု မှတ်ယူရမည်။ သို့သော် "အငှားချထားခြင်းခံရသူ"၏ ပျက်ကွက်မှုကြောင့် "အငှားချထားသူ" က စာချုပ်ပါ စည်းကမ်းချက်နှင့်အညီ ဆောင်ရွက်ရန် တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း (၁)လအတွင်း လုပ်ငန်းများကို ဆောင်ရွက်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရုပ်စဲသောနေ့သည် စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ဟု မှတ်ယူရမည်။

၁၁။ **လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်**

"အငှားချထားခြင်းခံရသူ"သည် (၂၀၁၅-၂၀၁၆)ဘဏ္ဍာနှစ်မှစတင်၍ (၂၀၄၄-၄၅) ဘဏ္ဍာနှစ်အထိ နှစ်စဉ် ကျောက်ကျင်းရေ (၄၀,၀၀၀ မှ ၁၀၀,၀၀၀ထိ) နှစ်စဉ် ထုတ်လုပ် ရောင်းချမည်ဖြစ်ပါသည်။

**၁၂။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်း**

စာချုပ်သက်တမ်းကို ကနဦး သက်တမ်း(၃၀)နှစ်သတ်မှတ်ပြီး နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ နောက်ထပ်တစ်ကြိမ် (၅)နှစ်ဖြင့် (၂) ကြိမ်အထိဆက်တိုက် သက်တမ်းတိုးမြှင့်ခွင့်ရှိ ပါသည်။

**၁၃။ စာချုပ်ရပ်စဲခြင်း**

ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိသည့်အခါ ရပ်စဲသွားမည်ဖြစ်ပါသည်-

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့အသီးသီး၏ လွတ်လပ်သော သဘောဆန္ဒ အလျောက် စာချုပ်ရပ်စဲရန် သဘောတူပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ စာဖြင့်တင်ပြလျက် ယင်းကော်မရှင်က သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် တာဝန်တစ်ရပ်ရပ်ကို ပျက်ကွက်သည့်အခါ

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်နေသည့် အခါ

(ဃ) စာချုပ်သက်တမ်းကုန်သည့်အခါ

**၁၄။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

"အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့် မြေဧရိယာ(၄၈)ဧက၏ ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုမရှိစေရန်နှင့် ခွဲကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်မှုကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုနှင့် အနီးဝန်းကျင်ရှိ ဒေသခံပြည်သူများ၏ လူမှုရေး၊ ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်ပါက ထိခိုက်မှုများအတွက် ပြန်လည်ဆောင်ရွက်ပေးသည့် အစီအစဉ်များရှိစေရန် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေအပါအဝင် တည်ဆဲဥပဒေများ၊ စည်းမျဉ်း စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ်တကျ အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

**၁၅။ ဓါတ်သတ္တုအရင်းအမြစ်များ**

အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေဧက(၄၈) တည်ရှိရာ မြေပေါ်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရှေးဟောင်းအနုပညာ ပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတ ပစ္စည်းများကို တွေ့ရှိလျှင် "အငှားချ ထားခြင်းခံရသူ"သည် သက်ဆိုင်ရာ ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းများ သို့ ချက်ခြင်း အကြောင်းကြားရမည်။ ထို့ပြင် အထက်ပါ ပစ္စည်းများအား ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့် ရှိစေရမည်။

အစိုးရအဖွဲ့ တစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်ခြင်း၊ စစ်ဖြစ်မှု၊ လျှောင်လှုပ်ခြင်း၊ ပိတ်ဆို့ တားဆီးမှု၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ မုန်တိုင်းကျမှုစသော စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်/ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ် များဖြစ်သည်။

(ခ) စာချုပ်ဝင်များသည် ထိုကဲ့သို့ မလွန်ဆန်နိုင်သောဖြစ်ရပ်များနှင့် ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင်အား ထိုအဖြစ်အပျက်ဖြစ်ပွားပြီး (၁၅)ရက်အတွင်း ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို အကြောင်းကြားရန်နှင့် ထိုကာလအတွင်း ဖြစ်ပေါ်မှု အခြေအနေ၊ မိမိကဆုံးဖြတ်ဆောင်ရွက်ရမည့် အခြေအနေများနှင့် အရေးပေါ် ဆောင်ရွက်ခဲ့မှု အခြေအနေများကို အကြောင်းကြားရမည်။ တစ်ဖက်က အတည်ပြု လက်ခံမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်စေရမည်။ အဆိုပါဖြစ်ရပ်ကို ကြုံတွေ့ခံစားရသူ၏ တာဝန်များကို ထိုမလွန်ဆန်နိုင်သောကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်း ဆက်နွယ်မှုအရ လိုအပ်သည်ထက် ပိုမို၍မကြန့်ကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန်ဆန်နိုင်သော ဖြစ်ရပ်ခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

## ၁၉။ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း

ဤစာချုပ်အား နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုမရရှိပဲ၊ ပြင်ဆင်ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ သို့သော် ခိုင်မာသော ကိစ္စတစ်ရပ်ရပ်ကြောင့် ဤစာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက၊ နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုရယူ၍ လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချက် အရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

## ၂၀။ မြေပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

(က) စာချုပ်သက်တမ်းနှစ်(၃၀)ကုန်ဆုံးသည့်အခါ သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူညီပြီး နောက်ထပ်တစ်ကြိမ်လျှင် (၅)နှစ်နှင့်ဆက်တိုက်(၂)ကြိမ် သက်တမ်းတိုး ကာလကုန်ဆုံးသည့်အခါ ငှားရမ်းထားသည့်မြေကို အငှားချထားသူသို့ အငှား ချထားခြင်းခံရသူက ငှားရမ်းစဉ်အခြေအနေကထက် မနိမ့်ကျဘဲ စာချုပ်သက်တမ်းကုန်ဆုံးပြီး (၃၀)ရက်အတွင်း အဖိုးစားနားမဲ့လွှဲပြောင်းပေးရမည်။

(ခ) မြေများသည် နိုင်ငံတော်ပိုင်ဖြစ်သည့်အတွက် နိုင်ငံတော်မှလိုအပ်လျှင် အချိန်မရွေး ပြန်လည်ရယူနိုင်သည်။

## ၁၆။ ငှားရမ်းမြေအားပြန်လည်ရယူခွင့်

အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် သို့မဟုတ် လိုက်နာရန် အငှားချထားခြင်းခံရသူကို အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့် မြေကို ပြန်လည် ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူမှ ရရန်ရှိသော ငှားရမ်းခ သို့မဟုတ် ပျက်စီးဆုံးရှုံးမှု အတွက် လျော်ကြေး တောင်းဆိုခြင်းကို ထိခိုက်ခြင်းမရှိစေရ။

## ၁၇။ လုပ်ငန်းအာမခံငွေ

(က) အငှားချထားခြင်းခံရသူမှ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေ(၄၈)ဧကတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် တူးဖော်ထုတ်လုပ်ခြင်း အတွက် လုပ်ငန်းအာမခံငွေအဖြစ် တစ်ဧကလျှင် ကျပ် ၅၀၀၀၀(ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် စုစုပေါင်း ၂၄၀၀၀၀၀/- (ကျပ် နှစ်ဆယ့် လေးသိန်း တိတိ)ကို သစ်တော ဦးစီးဌာနသို့ သတ်မှတ်ထားသော နည်းလမ်းဖြင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်း ရမည်။

(ခ) စာချုပ်သက်တမ်း ကုန်ဆုံးလျှင် သော်လည်းကောင်း၊ လုပ်ငန်းမလုပ်လိုတော့၍ ပြန်လည်အပ်နှံလျှင် သော်လည်းကောင်း၊ ဝန်ခံကတိပြုထားသည့် ခွင့်ပြုမြေဧရိယာ ပမာဏ၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင် စိုက်ပျိုးပြီးစီးပါက လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(ဂ) ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀%ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပေးမည်ဖြစ်ကြောင်း ဝန်ခံကတိအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်ပါက အဆိုပါ လုပ်ငန်းအာမခံငွေအား ဘဏ္ဍာငွေအဖြစ် သိမ်းယူခွင့်ရှိသည်။

(ဃ) အငှားချထားခြင်းခံရသူသည် စာချုပ်ပါ စည်းကမ်းတစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက အဆိုပါ လုပ်ငန်းအာမခံငွေကို သိမ်းယူနိုင်ပါသည်။

## ၁၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

(က) စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့်ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိပါသဖြင့် အခြားစာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာမှုများ ပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုများအတွက်တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ

## ၂၁။ အငြင်းပွားမှုဖြေရှင်းခြင်း (အနုညာတစီရင်ခြင်း)

ဤစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက၊ ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦးစီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက မဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင်၊ နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်ရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်-၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင် ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

## ၂၂။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ

"အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ"တို့အကြားဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်းလိပ်မူရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

| <u>"အငှားချထားသူ" အတွက်</u> | <u>"အငှားချထားခြင်းခံရသူ" အတွက်</u> |
|---|---|
| ညွှန်ကြားရေးမှူးချုပ် | ဒေါ်သူသူမြင့် |
| သစ်တောဦးစီးဌာန | ၁၃/ကခန (နိုင်) ၀၁၆၈၅၆ |
| ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် | အမှတ်(၇၇-အေ)၊ သံလွင်လမ်း |
| သစ်တောရေးရာဝန်ကြီးဌာန | (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ် |
| နေပြည်တော် | ရန်ကုန်တိုင်းဒေသကြီး။ |

## ၂၃။ လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ် မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလ ဘူတ အခွင့်အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏အနုညာတဖြေရှင်းရန်တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှတားမြစ်ခြင်း သို့မဟုတ် ကန့်သတ်ခြင်း မပြုနိုင်။

၂၄။ အထွေထွေ

(က) ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကို လွှမ်းမိုးစေရမည်။

(ခ) စာချုပ်၏ နောက်ဆက်တွဲများ၊ ပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများ အားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

အထက်ပါ စည်းကမ်းချက်များကို နားလည်သဘောတူ လက်ခံကြသည့်အတိုင်း စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်တွင် အထက်တွင်ဖော်ပြထားသည့် (.......) ရက်၊ (.......)လ၊ (၂၀၁၅)ခုနှစ်တွင် အောက်ပါအသိသက်သေ လူကြီးများရှေ့၌ မိမိတို့၏ တံဆိပ်တုံးများ ရိုက်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| <u>အငှားချထားသူ (ကိုယ်စား)</u> | | <u>အငှားချထားခြင်းခံရသူ(ကိုယ်စား)</u> | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - | အမည် | - (သူသူမြင့်) |
| ရာထူး | - | ရာထူး | - အုပ်ချုပ်မှုဒါရိုက်တာ |
| ဌာန | - | မှတ်ပုံတင်အမှတ် | - ၁၃/ကခန (နိုင်) ဝ၁၆၈၅၆ |
| | | နေရပ်လိပ်စာ | - အမှတ်(၇၇-အေ)၊ သံလွင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

| (အသိသက်သေ) | | (အသိသက်သေ) | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - | အမည် | - |
| ရာထူး | - | မှတ်ပုံတင်အမှတ် | - |
| ဌာန | - | နေရပ်လိပ်စာ | - |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန**
**သစ်တောဦးစီးဌာန**
**ညွှန်ကြားရေးမှူးချုပ်ရုံး**

စာအမှတ် ။ စီမံကိန်း/သတ္တု/(၁၉ ၈၁ - ၁၄ / ၂၀၁၅)
ရက်စွဲ ။၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ ( ၁၄ ) ရက်

သို့

ညွှန်ကြားရေးမှူးချုပ်
ပြည်ထောင်စုရှေ့နေချုပ်ရုံး
နေပြည်တော်

အကြောင်းအရာ ။ **နှစ်ရှည်မြေငှားရမ်း၍ လမ်းခင်းကျောက်ထုတ်လုပ်ခြင်းဆိုင်ရာ စာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃၀-၉-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၅(အ)/ မ-၀၀၃/ ၂၀၁၅(၃၂၀)

(၂) ပြည်ထောင်စုဝန်ကြီးရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ ၁၃-၁၀-၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ၃(၂)/၁၆ (ဃ)(၃)/ (၂၇၆၂/ ၂၀၁၅)

၁။ Myanma Rock Mountain Co., Ltd မှ လမ်းခင်းကျောက်ထုတ်လုပ်ခွင့်ပြုပါရန် အဆိုပြု လျှောက်ထားခဲ့သဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ (၃၀-၈-၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော စီမံခန့်ခွဲမှုကော်မတီ၏ (၂၀/၂၀၁၃)ကြိမ်မြောက် အစည်း အဝေး ဆုံးဖြတ်ချက်အရ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)၊ မြေဧရိယာ(၄၈)ဧကေ၌ လမ်းခင်းကျောက်ထုတ်လုပ်ခြင်းအား သတ်မှတ်ထား သည့် စည်းမျဉ်းစည်းကမ်း များနှင့်အညီ နှစ်စဉ် စာချုပ်ချုပ်ဆို၍ လုပ်ကိုင်ခွင့်ပြုခဲ့ပြီး ကုမ္ပဏီမှ လည်း သတ်မှတ်ထားသည့် အခွန်တော်ငွေများနှင့် လုပ်ငန်းအာမခံငွေများအား ပေးဆောင်၍ လမ်းခင်း ကျောက်ထုတ်လုပ်ခြင်းအား ဆောင်ရွက်လျက်ရှိပါသည်။

၂။ Myanma Rock Mountain Co., Ltd မှ နိုင်ငံတော်၏ ဖွံ့ဖြိုးရေးစီမံကိန်း လုပ်ငန်းများ၊ ဒေသန္တရ ဖွံ့ဖြိုးရေးလုပ်ငန်းများ၊ စက်မှုဇုန်စီမံကိန်းများအတွက် မရှိမဖြစ်လိုအပ်သော လမ်းခင်း ကျောက်အား ရေရှည်ပံ့ပိုးသွားရန် လိုအပ်လာပါသဖြင့် ခွင့်ပြုချက်ရရှိထားသော မြေဧရိယာ(၄၈)ဧက ကို အနှစ်(၃၀)နှစ်ရှည်ငှားရမ်းပြီး လမ်းခင်းကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလျှောက်ထားခြင်းအပေါ် စိစစ်၍ ပြန်လည်တင်ပြပါရန် ရည်ညွှန်းစာ(၁)ဖြင့် အကြောင်းကြားလာပါသည်။

၃။ အဆိုပါ သဘောတူစာချုပ်(မူကြမ်း)ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ (၂-၁-၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁/၂၀၁၃)

ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရ သစ်တောနယ်မြေအတွင်း လက်ရှိ လမ်းခင်းကျောက် ထုတ်လုပ်ခွင့်ပြုလျက်ရှိသည့် လုပ်ငန်းနှင့်ပတ်သက်သည့် စည်းမျဉ်းစည်းကမ်း၊ အခွန်နှုန်းထား သတ်မှတ်ချက်များနှင့် သစ်တောနယ်မြေအတွင်း လုပ်ငန်းဆောင်ရွက်မှုအလိုက် သတ်မှတ်ထားသည့် မြေငှားရမ်းခ အခွန်နှုန်း သတ်မှတ်ချက်များအပေါ် အခြေခံရေးဆွဲထားခြင်းဖြစ်ပါသည်။

၄။ စာချုပ်မူကြမ်း အပိုဒ်(၃)၊ အပိုဒ်ခွဲ(က)တွင် နောက်ဆက်တွဲ(က)အဖြစ် ရည်ညွှန်းဖော်ပြထား သော ခွင့်ပြုလုပ်ကွက်၏ တည်နေရာပြမြေပုံနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာနသည် သစ်တောနယ်မြေ (ကြိုးဝိုင်း/ ကြိုးပြင်ကာကွယ်တော)များကို သစ်တော ဥပဒေအရ ဖွဲ့စည်းသတ်မှတ်ပြီး စီမံခန့်ခွဲဆောင်ရွက်လျှက် ရှိသည်ဖြစ်၍ ကြိုးဝိုင်း/ ကြိုးပြင်ကာကွယ် တောများအတွင်း ဆောင်ရွက်မည့် လုပ်ငန်းတည်နေရာများကို သစ်တောဦးစီးဌာနက တရားဝင်ရေးဆွဲ မှတ်တမ်းတင်ထားသော ကြိုးဝိုင်း/ ကြိုးပြင်ကာကွယ်တော နယ်နိမိတ်ပြမြေပုံများပေါ်တွင် ထည့်သွင်း ရေးဆွဲခြင်းဖြစ်ပါသည်။

၅။ Myanma Rock Mountain Co., Ltd မှ လမ်းခင်းကျောက်ထုတ်လုပ်ခြင်းဆိုင်ရာ စာချုပ်ကို Myanma Rock Mountain Co., Ltd မှ ရေးဆွဲတင်ပြသည့် စီမံချက်ကာလအတွင်း တူးဖော် ထုတ်လုပ်မည့် ကျောက်ကျင်းပမာဏအလိုက် နှစ်စဉ်စာချုပ်ချုပ်ဆို ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၆။ သို့ဖြစ်ပါ၍ Myanma Rock Mountain Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ် ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)၊ မြေဧရိယာ(၄၈)ဧကတွင် အနှစ်(၃၀) မြေငှားရမ်းပြီး မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လမ်းခင်းကျောက် ထုတ်လုပ်ခြင်း လုပ်ငန်းအား နှစ်စဉ်စာချုပ် ချုပ်ဆို ခွင့်ပြုသွားမည်ဖြစ်ပါသဖြင့် သဘောတူစာချုပ် (မူကြမ်း)အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ပြန်ကြားမှုပြုပေးပါရန် စာချုပ်(မူကြမ်း)(၃)စုံ ပူးတွဲလျက် မေတ္တာရပ်ခံပေးပို့အပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
[ခင်မောင်ဦး၊ ညွှန်ကြားရေးမှူး(စီမံကိန်း)]

မိတ္တူကို
ဒုတိယညွှန်ကြားရေးမှူးချုပ်(မူဝါဒနှင့်စီမံကိန်း)၊ သစ်တောဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံးစာတွဲ၊ သစ်တောဦးစီးဌာန
မျှောစာတွဲ
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

သစ်တောဦးစီးဌာန

နှင့်

မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုသည့် "တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ်"

၂၀၁၅ ခုနှစ်၊ လ၊ ( ) ရက်။

သစ်တောဦးစီးဌာန

နှင့်

မြန်မာ့ရေ့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်တို့အကြားချုပ်ဆိုသည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ်


| စဉ် | မာတိကာ | စာမျက်နှာ | |
|---|---|---|---|
| ၁။ | ရည်ရွယ်ချက် | ၁ | - |
| ၂။ | အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း | ၁ | - |
| ၃။ | လုပ်ငန်းဘောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ် | ၂ | - |
| ၄။ | အငှားချထားခြင်းခံရသူ၏ ကနဦးရင်းနှီးမြှုပ်နှံမှု | ၂ | - |
| ၅။ | ခွင့်ပြုမြေဧရိယာ(၅၀)ဧကတွင် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ | ၂ | - |
| ၆။ | အငှားချထားသူ၏ တာဝန်ဝတ္တရားများ | ၂ | ၃ |
| ၇။ | အငှားချထားခံရသူ၏လိုက်နာရမည့် စည်းကမ်းချက်များနှင့် အခွင့်အရေးများ | ၃ | ၅ |
| ၈။ | စာချုပ်စတင်အကျိုးသက်ရောက်သောနေ့ | ၅ | - |
| ၉။ | စာချုပ်သက်တမ်းကာလ | ၅ | - |
| ၁၀။ | စာချုပ်သက်တမ်းကုန်ဆုံးခြင်း | ၅ | - |
| ၁၁။ | လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် | ၅ | - |
| ၁၂။ | စာချုပ်သက်တမ်းတိုးမြှင့်ခြင်း | ၆ | - |
| ၁၃။ | စာချုပ်ရုပ်သိမ်းခြင်း | ၆ | - |
| ၁၄။ | ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း | ၆ | - |
| ၁၅။ | ဓာတ်သတ္တုအရင်းအမြစ်များ | ၆ | - |
| ၁၆။ | ငှားရမ်းမြေအားပြန်လည်ရယူခွင့် | ၇ | - |
| ၁၇။ | လုပ်ငန်းအာမခံငွေ | ၇ | - |
| ၁၈။ | မလွန်ဆန်နိုင်သောဖြစ်ရပ်များ | ၇ | ၈ |
| ၁၉။ | စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း | ၈ | - |
| ၂၀။ | မြေပြန်လည်လွှဲပြောင်းပေးအပ်ခြင်း | ၈ | - |
| ၂၁။ | အငြင်းပွားမှုဖြေရှင်းခြင်း (အနုညာတစီရင်ခြင်း) | ၈ | - |
| ၂၂။ | စာပေးစာယူပြုလုပ်ရန်လိပ်စာများ | ၉ | - |
| ၂၃။ | လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ | ၉ | - |
| ၂၄။ | အထွေထွေ | ၁၀ | - |

## သစ်တောဦးစီးဌာန

## နှင့်

## မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက် တို့အကြား ချုပ်ဆိုသည့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေဧရိယာ(၄၈)ဧကကို ငှားရမ်း၍ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် ထုတ်လုပ်ခြင်းဆိုင်ရာစာချုပ်

## (မူကြမ်း)

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၅ ခုနှစ်၊ (            )လ(       )ရက်နေ့၌ ဒေါက်တာ ညီညီကျော်၊ ညွှန်ကြားရေးမှူးချုပ် ကိုယ်စားပြုသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ခေါ်ဆိုရမည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)က တစ်ဖက်နှင့် ဒေါ်သူသူမြင့်၊ အုပ်ချုပ်မှုဒါရိုက်တာ (နိုင်ငံသားစိစစ်ရေးအမှတ်-၁၃/ ကခန(နိုင်) ၀၁၆၈၅၆)၊ ရန်ကုန်တိုင်းဒေသကြီး၊ ကမာရွတ်မြို့နယ်၊ သံလွင်လမ်း၊ အမှတ်(၇၇-အေ) ကိုယ်စားပြုသော မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက် (နောင်တွင် "အငှားချထားခြင်းခံရ သူ"ဟု ခေါ်ဆိုရ မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ ဆက်ခံ သူများနှင့်ဥပဒေအရ လွှဲအပ်ခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)တို့က အခြားတစ်ဖက်တို့သည် အောက်ဖော်ပြပါ သဘောတူညီချက်များနှင့်အညီ ဤစာချုပ်ကို ချုပ်ဆိုကြပါသည်။

### ၁။ ရည်ရွယ်ချက်

ဤစာချုပ်ကို ချုပ်ဆိုသည့်ရည်ရွယ်ချက်မှာ "အငှားချထားခြင်းခံရသူ"သည် "အငှားချထား သူ" ပိုင်ဆိုင်သော တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြိုးဝိုင်း၊ အကွက် အမှတ်(၁၂)အတွင်း မြေဧရိယာ(၄၈)ဧကတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက် ထုတ်လုပ်ခြင်းလုပ်ငန်းကို လုပ်ဆောင်ရန် ရည်ရွယ်ပါသည်။

### ၂။ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း

"အငှားချထားသူ"က အဆိုပါ ဘဝါကြိုးဝိုင်းနှင့် ပတ်သက်၍ တရားဝင် ဆောင်ရွက်ခွင့် ရှိကြောင်း၊ "အငှားချထားသူ" နှင့် "အငှားချထားခြင်း ခံရသူ"တို့သည် သက်ဆိုင်ရာ တည်ဆဲ ဥပဒေများအရ၊ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့် ရှိသူများ ဖြစ်ပြီး၊ ဤသဘောတူစာချုပ်ပါ လုပ်ငန်းကိုလုပ်ကိုင်ခွင့်ရှိသော ပုဂ္ဂိုလ်များဖြစ်ကြောင်းနှင့် ဤ စာချုပ်ကို ချုပ်ဆိုရန် အခွင့်အာဏာရှိသူများ၊ ငွေကြေးအင်အား တောင့်တင်းသူများဖြစ်ကြောင်း အသီးသီး ကိုယ်စားပြု အာမခံကြပါသည်။

## ၃။ လုပ်ငန်းဆောင်နှင့် လုပ်ဆောင်မှုဖြစ်စဉ်

(က) အငှားချထားသူ၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ဘဝါကြီး‌ုဝိုင်း၊ အကွက်အမှတ် (၁၂) အတွင်းရှိ မြေကေ(၄၈)(မြေပုံနောက်ဆက်တွဲ-က)ကို "အငှားချထားခြင်းခံရသူ" မှ "အငှားချထားသူ"သို့ တစ်နှစ်လျှင် တစ်ကေအတွက် မြေငှားရမ်းခ မြန်မာကျပ်ငွေ (၁၅၀၀၀/-)နှုန်းဖြင့် ကေ(၄၈)အတွက် ၇၂၀၀၀၀/-(ငွေကျပ် ခုနစ်သိန်း နှစ်သောင်း တိတိ)ကို ပေးသွင်းမည်ဖြစ်ပါသည်။

## ၄။ အငှားချထားခြင်းခံရသူ၏ ကနဦးရင်းနှီးမြှုပ်နှံမှု

(က)"အငှားချထားခြင်းခံရသူ" မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ရန်အတွက် ကနဦးရင်းနှီး မြှုပ်နှံမှုအဖြစ် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(၁) "အငှားချထားခြင်းခံရသူ" မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် တူးဖော်ထုတ်လုပ်ရန်အတွက် စက်ပစ္စည်းများ ဝယ်ယူမှုနှင့် လုပ်ငန်းလည်ပတ်ငွေများအပါအဝင် မြန်မာကျပ်ငွေ သန်းပေါင်း ၁၀,၀၀၀ (ကျပ် သန်းတစ်သောင်း)ကို ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွား မည်ဖြစ်သည်။

## ၅။ ခွင့်ပြုမြေဧရိယာ(၄၈)ကေတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်ရောင်းချခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ

(က) တစ်ကေမြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်းမပြုလုပ်ပဲ တစ်ချိန်တွင် မြေငှားရမ်းခနှုန်းကို နိုင်ငံတော်မှ သတ်မှတ်သည့်အတိုင်း ပေးသွင်းရန်။

(ခ) "အငှားချထားခြင်းခံရသူ"သည် မြေငှားရမ်းခများကို "အငှားချထားသူ"ထံသို့ ပထမနှစ်အတွက် သတ်မှတ်ထားသော အခွန်ငွေကို စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်၊ နောက်နှစ်များတွင်လည်း နှစ်စဉ်ငှားရမ်းနှစ် မစတင်မီ ရက်ပေါင်း(၃၀)အတွင်း ကြိုတင်ပေးသွင်းရမည်။ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက နောက်ကျသည့် ရက်များအတွက် တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ်(၅၀၀၀)နှုန်း ပေးဆောင်ရပါမည်။

(ဂ) ငှားရမ်းသည့်စာချုပ်ကို လုပ်ငန်းစတင်မည့် ၂၀၁၅-၂၀၁၆ ခုနှစ်တွင် စာချုပ်ချုပ်ဆိုသွားမည်ဖြစ်ပြီး စာချုပ်ကာလမှာ ၂၀၁၅ ခုနှစ်၊ (....)လ၊ (......)ရက်မှ ၂၀၄၅ ခုနှစ်၊ (......)လ၊ (......)ရက်အထိ နှစ် (၃၀) ဖြစ်ပါသည်။

## ၆။ အငှားချထားသူ၏ တာဝန်ဝတ္တရားများ

အငှားချထားသူသည်-

(က) သက်ဆိုင်ရာအုပ်ချုပ်ရေးအဖွဲ့အစည်းများထံမှ လိုအပ်သောခွင့်ပြုချက်များရယူရမည်၊

(ခ) “အငှားချထားခံရသူ”က လိုအပ်သောခွင့်ပြုချက်များ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြားလိုအပ်သော အချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာ နိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်၊

(ဂ) “အငှားချထားခံရသူ”က ငှားရမ်းသည့်ကာလအတွင်း လုပ်ပိုင်ခွင့်ရရှိထားသော မြေ ဧက(၄၈)ကို စည်းကမ်းချက်များနှင့်အညီ လက်ဝယ်ထား၍ ဆောင်ရွက်ခွင့်ရှိစေ ရန်အတွက် “အငှားချထားသူ”က သော်လည်းကောင်း ယင်း၏ကိုယ်စားပြုသူက လည်းကောင်း ဝင်ရောက်စွက်ဖက်ခြင်း၊ နှောက်ယှက်ခြင်းများမပြုရန် တာဝန်ယူရ မည်၊

(ဃ) "အငှားချထားခံရသူ" က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ စီမံကိန်းဆိုင်ရာ လုပ်ငန်းများအတွက် အခွန်အခကင်းလွတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူးခံစားခွင့် များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

**၇။ အငှားချထားခံရသူ၏ လိုက်နာရမည့် စည်းကမ်းချက်များနှင့် အခွင့်အရေးများ**

(က) ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှုအားလုံးကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

(ခ) အငှားချထားသူက ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်မှုများ နှင့်ပတ်သက်၍ သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလာတိုင်း အငှားချ ထားသူသို့ တင်ပြရမည်။

(ဂ) မြန်မာ့အာမခံဥပဒေနှင့်အညီ လိုအပ်သောအာမခံများကို သစ်တောဦးစီးဌာန အမည်ခံ ဖြင့် ထားရှိရမည်။

(ဃ) ငှားရမ်းခကို သတ်မှတ်နှုန်းထားနှင့်သတ်မှတ်သော နည်းလမ်းများအတိုင်း သတ်မှတ် ချိန်အတွင်း အတိအကျပေးချေရမည်။

(င) ငှားရမ်းထားသော မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော် လည်းကောင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြု ချက် မရရှိဘဲ မည်သူ့ကိုမျှ တစ်ဆင့်ငှားရမ်းရောင်းချ၊ လွှဲအပ်၊ လွှဲပြောင်း၊ ပေါင်နှံ၊ ထုခွဲခြင်းမပြုရ။ ကိုယ်တိုင်လုပ်ကိုင်ခြင်းမရှိလျှင် သစ်တောဦးစီးဌာနသို့ ပြန်လည်အပ်နှံ ရမည်။

(စ) လုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း လုပ်ကိုင်ခွင့်ရရှိသူက ကွယ်လွန်လျှင် ၎င်း၏ အမွေဆက်ခံခွင့်ရရှိသူက ခိုင်လုံသောအထောက်အထားများ တင်ပြ၍ ပတ်ဝန်းကျင်

ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက် လုပ်ကိုင်ခွင့်ရှိသည်။

(ဆ) အငှားချထားခြင်းခံရသူသည် ခွင့်ပြုထားသည့် မြေဧရိယာတွင် လမ်းခင်းကျောက်တူးဖော်ထုတ်လုပ်ရာ၌ ကျောက်(၁)ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅% ဖြင့် စုစုပေါင်းထုတ်လုပ်သည့် လမ်းခင်းကျောက်ပမာဏ(ကျင်း)အတွက် ကျသင့်အခွန်ငွေကို သတ်မှတ်သည့် နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

(ဇ) အခွန်တော်ငွေများ ပေးသွင်းခြင်းကို သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသည့်နည်းလမ်းများနှင့်အညီ ပေးသွင်းရမည်။

(ဈ) သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုအတွက် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုထားသည့် မြေဧရိယာ(၄၈)ဧက၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် ကြီးကြပ်စစ်ဆေးရန် လွှယ်ကူမည့် သစ်တောနယ်မြေအတွင်း တည်ထောင်စိုက်ပျိုးပေးရန် ဝန်ခံကတိပြုပြီး တည်ထောင်စိုက်ပျိုးပေးရမည်။

(ည) ကျောက်တူးဖော်ထုတ်လုပ်ရန် ခွင့်ပြုမြေဧရိယာ(၁)ဧကလျှင် လုပ်ငန်းအာမခံငွေ ကျပ် ၅၀၀၀၀ နှုန်းဖြင့် သစ်တောဦးစီးဌာနမှ သတ်မှတ်သည့် မြန်မာ့စီးပွားရေးဘဏ်တွင် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။

(ဋ) ကျောက်တူးဖော်မည့်ဧရိယာကို ထင်ရှားသောနယ်နိမိတ်သတ်မှတ်ရန်နှင့် ကုန်ကျစရိတ်ကို အငှားချထားခြင်းခံရသူမှ ကျခံရမည်။

(ဌ) ကျောက်တူးဖော်ခွင့်ပြုထားသည့် ဧရိယာအတွင်း၌သော်လည်းကောင်း၊ အပြင်၌သော်လည်းကောင်း၊ သစ်ပင်ခုတ်လှဲခြင်းမပြုလုပ်ရန်၊ မလွှဲမရှောင်သာ၍ ခုတ်လှဲရန် လိုအပ်ပါက သစ်တောဦးစီးဌာန၏ခွင့်ပြုချက်အရ ခွင့်ပြုချက်ကို ကြိုတင်ရယူရမည်။

(ဍ) သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်အရ ခုတ်လှဲပြီးသောသစ်ပင်များကို အသုံးပြုလိုပါက သစ်တောဦးစီးဌာနမှ သတ်မှတ်ထားသော ဈေးနှုန်းဖြင့်ဝယ်ယူသုံးစွဲရမည်။

(ဎ) ကျောက်တူးဖော်သည့် လုပ်ငန်းဆောင်ရွက်နေစဉ် နေထိုင်ရန် ယာယီနေအိမ်တဲမှ အပ အခြားအခိုင်အမာအဆောက်အအုံများ ဆောက်လုပ်ခြင်းမပြုလုပ်ရ။

(ဏ) ကြိုးဝိုင်းအတွင်းကျောက်တူးဖော်ရာတွင် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သဖြင့် ထိခိုက်မှုအနည်းဆုံးဖြစ်မည့် ပေါက်ကွဲစေတတ်သော ပစ္စည်းများကိုသာ အသုံးပြု၍ တူးဖော်ရမည်။

(တ) လုပ်ကိုင်ခွင့်ရသည့်မြေကို ကျောက်တူးဖော်ခြင်းလုပ်ငန်းမှတပါး အခြားစီးပွားရေး လုပ်ငန်းများအတွက် အသုံးမပြုရ။

(ထ) ကျောက်ထုတ်လုပ်မည့်စာရင်းများကို ထုတ်လုပ်သူမှ စနစ်တကျပြုစုထားရှိပြီး လစဉ် တိုးတက်မှုကို နောက်လပထမပတ်အတွင်း သက်ဆိုင်ရာမြို့နယ် သစ်တောဦးစီးဌာန၊ ဦးစီးအရာရှိထံ လစဉ် တင်ပြရမည်။

(ဒ) ကျောက်ထုတ်လုပ်မည့် စာရင်းဇယားများနှင့် ကျောက်ထုတ်လုပ်မှုအခြေအနေကို သစ်တောဦးစီးဌာနမှ တာဝန်ရှိပုဂ္ဂိုလ်များအား အချိန်မရွေး ဝင်ရောက်စစ်ဆေးခွင့်ပြု ရမည်။

(ဓ) ဖော်ပြပါစည်းကမ်းချက် တစ်စုံတစ်ရာကို ချိုးဖောက်ပါက ကျောက်တူးဖော် လုပ်ကိုင် ခွင့် ရုပ်သိမ်းခြင်းခံရမည်။

**၈။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့**

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးနောက် အသိ သက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့ရက်မှ စတင်အကျိုးသက်ရောက်မှု ရှိစေရမည်။

**၉။ စာချုပ်သက်တမ်းကာလ**

ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ(၃၀)နှစ်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အတည်ပြုချက်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့ရက်မှ စတင်ရေတွက်သွား မည်ဖြစ်သည်။

**၁၀။ စာချုပ်သက်တမ်းကုန်ဆုံးခြင်း**

ဤစာချုပ်သက်တမ်းသည် ငှားရမ်းကာလပြည့်မြောက်သည့်နေ့ (သို့) စာချုပ်ပါလုပ်ငန်းများ ကို "အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ"တို့ အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီး သည့်နေ့တွင် ကုန်ဆုံးသည်ဟု မှတ်ယူရမည်။ သို့သော် "အငှားချထားခြင်းခံရသူ"၏ ပျက်ကွက် မှုကြောင့် "အငှားချထားသူ" က စာချုပ်ပါ စည်းကမ်းချက်နှင့်အညီ ဆောင်ရွက်ရန် တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း (၁)လအတွင်း လုပ်ငန်းများကို ဆောင်ရွက်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရပ်ဆိုင်းသောနေ့သည် စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ဟု မှတ်ယူရမည်။

**၁၁။ လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်**

"အငှားချထားခြင်းခံရသူ"သည် (၂၀၁၅-၂၀၁၆)ဘဏ္ဍာနှစ်မှစတင်၍ (၂၀၄၄-၄၅) ဘဏ္ဍာနှစ် အထိ နှစ်စဉ် ကျောက်ကျင်းရေ (၄၀,၀၀၀ မှ ၁၀၀,၀၀၀ထိ) နှစ်စဉ် ထုတ်လုပ် ရောင်းချမည် ဖြစ်ပါသည်။

## ၁၂။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်း

အငှားချထားသည့်ကာလကို ကနဦး သက်တမ်း(၃၀)နှစ်သတ်မှတ်ပြီး နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ နောက်ထပ်တစ်ကြိမ် (၅)နှစ်ဖြင့် (၂) ကြိမ်အထိဆက်တိုက် သက်တမ်းတိုးမြှင့်ခွင့်ရှိပါသည်။

## ၁၃။ စာချုပ်ရုပ်စဲခြင်း

ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက် ရရှိသည့်အခါ ရုပ်စဲသွားမည်ဖြစ်ပါသည်-

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့အသီးသီး၏ လွတ်လပ်သော သဘောဆန္ဒ အလျောက် စာချုပ်ရုပ်စဲရန် သဘောတူပြီး ကော်မရှင်သို့ စာဖြင့်တင်ပြလျက် ကော်မရှင်ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် တာဝန်များ ပျက်ကွက်သည့်အခါ

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်များသည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်နေသည့် အခါ

(ဃ) စာချုပ်သက်တမ်းကုန်သည့်အခါ

## ၁၄။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

“အငှားချထားခြင်းခံရသူ”သည် အငှားချထားသည့် မြေဧရိယာ(၄၈)ဧက၏ ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်းမှုမရှိစေရန်နှင့် ခွဲကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်မှုကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုနှင့် အနီးဝန်းကျင်ရှိ ဒေသခံပြည်သူများ၏ လူမှုရေး၊ ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်ပါက ထိခိုက်မှုများအတွက် ပြန်လည်ဆောင်ရွက်ပေးသည့် အစီအစဉ်များရှိစေရန် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ်တကျ အကောင်အထည်ဖော် ဆောင်ရွက်ရမည်။

## ၁၅။ ဓါတ်သတ္တုအရင်းအမြစ်များ

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့် မြေဧက(၄၈) တည်ရှိရာ မြေပေါ်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရှေးဟောင်းအနုပညာပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံ ဆိုင်ရာအရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတပစ္စည်းများကို တွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ"သည် သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းများသို့ ချက်ခြင်း အကြောင်းကြားရမည်။ ထို့ပြင် အထက်ပါ ပစ္စည်းများအား ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့်ရှိစေရမည်။

၁၆။ ငှားရမ်းမြေအားပြန်လည်ရယူခွင့်

အငှားချထားခံရသူသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် သို့မဟုတ် လိုက်နာရန် အငှားချထားခံရသူကို အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်မြေကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူမှ ရရန်ရှိသော ငှားရမ်းခ သို့မဟုတ် ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေး တောင်းဆိုခြင်းကို ထိခိုက်ခြင်းမရှိစေရ။

၁၇။ လုပ်ငန်းအာမခံငွေ

(က) အငှားချထားခံရသူမှ ဘဝါကြိုးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေ(၄၈)ဧကတွင် လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက် တူးဖော်ထုတ်လုပ်ခြင်းအတွက် လုပ်ငန်းအာမခံငွေအဖြစ် တစ်ဧကလျှင် ကျပ် ၅၀၀၀၀(ကျပ်ငါးသောင်းတိတိ) နှုန်းဖြင့် စုစုပေါင်း ၂၄၀၀၀၀၀/- (ကျပ် နှစ်ဆယ့် လေးသိန်း တိတိ)ကို သစ်တောဦးစီးဌာနသို့ သတ်မှတ်ထားသော နည်းလမ်းဖြင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။

(ခ) စာချုပ်သက်တမ်း ကုန်ဆုံးလျှင် သော်လည်းကောင်း၊ လုပ်ငန်းမလုပ်လိုတော့၍ ပြန်လည်အပ်နှံလျှင် သော်လည်းကောင်း၊ ဝန်ခံကတိပြုထားသည့် ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပြီးစီးပါက လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(ဂ) ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀%ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပေးမည်ဖြစ်ကြောင်း ဝန်ခံကတိအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်ပါက အဆိုပါ လုပ်ငန်းအာမခံငွေအား ဘဏ္ဍာငွေအဖြစ် သိမ်းယူခွင့်ရှိ သည်။

၁၈။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

(က) စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာတွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့်ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိပါသဖြင့် အခြားစာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာမှုများ ပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုများအတွက်တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ အစိုးရအဖွဲ့ တစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်ခြင်း၊ စစ်ဖြစ်မှု၊ လျှောင်လှုပ်ခြင်း၊ ပိတ်ဆို့ တားဆီးမှု၊ သူပုန်ထခြင်း၊ အဓိကရုဏ်းဖြစ်မှု၊ ကူးစက်ရောဂါပြန့်ပွားမှု၊ ပေါက်ကွဲမှု၊ မီးလောင်မှု၊ ရေကြီးမှု၊ မုန်တိုင်းကျမှုစသော စာချုပ် ဝင်တစ်ဖက်ဖက်က

လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်/ မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ် များဖြစ်သည်။

(ခ) စာချုပ်ဝင်များသည် ထိုကဲ့သို့ မလွန်ဆန်နိုင်သောဖြစ်ရပ်များနှင့် ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင်အား ထိုအဖြစ်အပျက်ဖြစ်ပွားပြီး (၁၅)ရက်အတွင်း ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို အကြောင်းကြားရန်နှင့် ထိုကာလအတွင်း ဖြစ်ပေါ်မှု အခြေအနေ၊ မိမိကဆုံးဖြတ်ဆောင်ရွက်ရမည့် အခြေအနေများနှင့် အရေးပေါ် ဆောင်ရွက်ခဲ့မှု အခြေအနေများကို အကြောင်းကြားရမည်။ တစ်ဖက်က အတည်ပြု လက်ခံမှသာ မလွန်ဆန်နိုင်သောဖြစ်ရပ် မြောက်စေရမည်။ အဆိုပါဖြစ်ရပ်ကို ကြုံတွေ့ခံစားရသူ၏ တာဝန်များကို ထိုမလွန်ဆန်နိုင်သောကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုဆိုင်းငံ့ကာလသည် အကျိုးအကြောင်း ဆက်နွယ်မှုအရ လိုအပ်သည်ထက် ပိုမို၍မကြန့်ကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန်ဆန်နိုင်သော ဖြစ်ရပ်ခံရသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

**၁၉။ စာချုပ်အားပြင်ဆင်ဖြည့်စွက်ခြင်း**

ဤစာချုပ်အား နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုမရရှိပဲ၊ ပြင်ဆင်ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ သို့သော် ခိုင်မာသော ကိစ္စတစ်ရပ်ရပ်ကြောင့် ဤစာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက၊ နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုရယူ၍ လိုအပ်သလို ပြင်ဆင်ဖြည့်စွက်နိုင်သည်။ ဤစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချက် အရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်သည်။

**၂၀။ မြေပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

(က) ငှားရမ်းကာလနှစ်(၃၀)ကုန်ဆုံးသည့်အခါ သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ညီပြီးနောက်ထပ်တစ်ကြိမ်လျှင် (၅)နှစ်နှင့်ဆက်တိုက်(၂)ကြိမ် သက်တမ်းတိုး ကာလကုန်ဆုံးသည့်အခါ ငှားရမ်းထားသည့်မြေကို အငှားချထားသူသို့ အငှား ချထားခြင်းခံရသူက ငှားရမ်းစဉ်အခြေအနေကထက် မနိမ့်ကျဘဲ စာချုပ်သက်တမ်းကုန်ဆုံးပြီး (၃၀)ရက်အတွင်း အဖိုးစားနားမဲ့လွှဲပြောင်းပေးရမည်။

(ခ) မြေများသည် နိုင်ငံတော်ပိုင်ဖြစ်သည့်အတွက် နိုင်ငံတော်မှလိုအပ်လျှင် အချိန်မရွေး ပြန်လည်ရယူနိုင်သည်။

**၂၁။ အငြင်းပွားမှုဖြေရှင်းခြင်း (အနုညာတစီရင်ခြင်း)**

ဤစာချုပ်နှင့် ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက၊ ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦး

စီ ခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီးနှစ်ဦးက မဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။ ခုံလူကြီးနှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင်၊ နှစ်ဖက်အမှုသည်များအပေါ်၌လည်း အတည်ဖြစ်ရမည်။ အနုညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်-၄/၁၉၄၄)နှင့် နောက်ပိုင်းထုတ်ပြန်သော တည်ဆဲပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနုညာတစီရင် ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရန်ကုန်မြို့ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

**၂၂။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ**

"အငှားချထားခြင်းခံရသူ"နှင့် "အငှားချထားသူ"တို့အကြားဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်းလိပ်မူရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

| <u>"အငှားချထားသူ" အတွက်</u> | <u>"အငှားချထားခြင်းခံရသူ" အတွက်</u> |
|---|---|
| ညွှန်ကြားရေးမှူးချုပ် | ဒေါ်သူသူမြင့် |
| သစ်တောဦးစီးဌာန | ၁၃/ကခန (နိုင်) ၀၁၆၈၅၆ |
| ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် | အမှတ်(၇၇-အေ)၊ သံလွင်လမ်း |
| သစ်တောရေးရာဝန်ကြီးဌာန | (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ် |
| နေပြည်တော် | ရန်ကုန်တိုင်းဒေသကြီး။ |

**၂၃။ လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ**

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ် မြေအောက်၊ ရေပေါ်ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလ ဘူတ အခွင့်အရေး ကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏အနုညာတဖြေရှင်းရန်တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှတားမြစ်ခြင်း သို့မဟုတ် ကန့်သတ်ခြင်း မပြုနိုင်။

၂၄။ အထွေထွေ

(က) ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကို လွှမ်းမိုးစေရမည်။

(ခ) စာချုပ်၏ နောက်ဆက်တွဲများ၊ ပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများ အားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်စေရမည်။

အထက်ပါ စည်းကမ်းချက်များကို နားလည်သဘောတူ လက်ခံကြသည့်အတိုင်း စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်တွင် အထက်တွင်ဖော်ပြထားသည့် (.......) ရက်၊ (.......)လ၊ (၂၀၁၅)ခုနှစ်တွင် အောက်ပါအသိသက်သေ လူကြီးများရှေ့၌ မိမိတို့၏ တံဆိပ်တုံးများ ရိုက်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| အငှားချထားသူ (ကိုယ်စား) | | အငှားချထားခြင်းခံရသူ | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - | အမည် | - (သူသူမြင့်) |
| ရာထူး | - | ရာထူး | - အုပ်ချုပ်မှုဒါရိုက်တာ |
| ဌာန | - | မှတ်ပုံတင်အမှတ် | - ၁၃/ကခန (နိုင်) ၀၁၆၈၅၆ |
| | | နေရပ်လိပ်စာ | - အမှတ်(၇၇-အေ)၊ သံလွင်လမ်း၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |

(အသိသက်သေ) (အသိသက်သေ)

| | | | |
|---|---|---|---|
| လက်မှတ် | - | လက်မှတ် | - |
| အမည် | - | အမည် | - |
| ရာထူး | - | မှတ်ပုံတင်အမှတ် | - |
| ဌာန | - | နေရပ်လိပ်စာ | - |

Myanma Rock Mountain Co.,Ltd.
No.(77-A), Than Lwin Road, Kamaryut Township, Yangon. :01-503697, : 09-5194349, 09-49222634
E-mail : mrmountain08@gmail.com

Myanma Rock Mountain Co., Ltd
No..............
Date..............

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် MRM-F-YGN -042/15

ရက်စွဲ ။ ။ ၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၁၂)ရက်

အကြောင်းအရာ ။ ။ ကျောက်ထုတ်လုပ်ငန်းကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောတူညီချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် ထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆောင်ရွက်မည့် စီမံချက်များ တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၀၂-၁၀-၂၀၁၅) ရက်စွဲပါ စာအမှတ် ရက၊၅(အ)/မ-၀၀၃။၂၀၁၅(၃၃၁-ခ)

၁။ Myanmar Rock Mountain Co.,Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ ရေဖြူမြို့နယ်၊ ဘဝါကြီးပိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေ (၄၈)ဧကအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဦးစီးဌာန၊ သစ်တောဦးစီးဌာနမှ နှစ်ရှည်မြေငှားစနစ်ဖြင့် ငှားရမ်း၍သော်လည်းကောင်း၊ ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆) ဇာဒီကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်ရှိ စုစုပေါင်းမြေ ၁၄.၇၁ ဧကတွင်လည်းကောင်း၊ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်မှု လုပ်ငန်းအား ဆောင်ရွက်ရာတွင် ကျောက်ထုတ်လုပ်မှုလုပ်ငန်းစီမံကိန်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောဝန်ကြီးဌာနမှ ချမှတ်ထားသော ရည်ညွှန်းချက်စာ စာပါအတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၂။ လုပ်ငန်းမှရရှိသော အကျိုးအမြတ်ငွေရရှိသည့်အထဲမှ ၂%အား CSR အဖြစ် (၁)လမ်းတံတားများ တည်ဆောက်ခြင်းအတွက် ၃၀%၊ (၂)ရပ်ရွာဖွံ့ဖြိုးတိုးတက်ရေးအတွက် ၄၀%၊(၃)ပညာရေးစာသင်ကျောင်းများ တည်ဆောက်ခြင်းအတွက် ၃၀% အသုံးပြုရန် လျာထားပါသည်။

၃။ ကျောက်ထုတ်လုပ်ငန်းဆောင်ရွက်ပုံအဆင့်ဆင့်

(က) ကျောက်တောင်ကို ကျွမ်းကျင်ပညာရှင်များမှ စနစ်တကျလမ်းများ ဖောက်လုပ်ခြင်း။

(ခ) ကျောက်ထုတ်လုပ်ငန်းကို ကျွမ်းကျင်ပညာရှင်များမှ ရေတိုက်စားမှုကြောင့် မြေပြိုခြင်း အန္တရာယ်များမှ ကာကွယ်နိုင်ရန် လှေကားထစ်ပုံစံစနစ်ဖြင့် ထုတ်လုပ်ဆောင်ရွက်သွားပါမည်။

(ဂ) လုပ်ငန်းဆောင်ရွက်ရာ၌ လုပ်ငန်းခွင်ဧရိယာတွင် လေထုညစ်ညမ်းမှု၊ ဖုန်ထမှုမှ ကာကွယ်ရန် ရေဖျန်းခြင်းစနစ်ကို အသုံးပြုဆောင်ရွက်သွားပါမည်။

Myanma Rock Mountain Co., Ltd.
No.(77-A), Than Lwin Road, Kamaryut Tonship, Yangon. ☎ : 01-503697, 📱 : 09-5194349, 09-49222634
E-mail : mrmountain08@gmail.com

(ဃ) ရေမြောင်းများကို စနစ်တကျတူးဖော်ကာ ရေစီးဆင်းမှုကောင်းမွန်မှုရှိအောင် အထူးဂရုစိုက် ဆောင်ရွက်ပါမည်။

(င ) ကျောက်ထုတ်လုပ်ငန်းတွင် အရေးပါသည့် ကျောက်မိုင်းခွဲခြင်းလုပ်ငန်းပိုင်း၌ ကျွမ်းကျင်ပညာရှင်မှ စက်ယန္တရားများကို အသုံးပြု၍ မြေအနေအထားပေါ်မူတည်၍ မြေအောက် (၁၀ မှ ၂၀)မီတာအထိလွန်တူး၍ ယမ်းကို မြေမြှုပ်ဖောက်ခွဲခြင်းဖြင့် အန္တရာယ်မရှိစေရန် အထူးကြီးကြပ် ဆောင်ရွက်ပါမည်။

(စ ) မိုင်းခွဲကျောက်များကို ကားများဖြင့် သယ်ဆောင်၍ ကျောက်ခွဲစက်ကြီးများထားရှိရာ ဧရိယာ၌ အရွယ်အစား မျိုးစုံကို သတ်မှတ်စံချိန်စံညွှန်းအတိုင်း ကျွမ်းကျင်ပညာရှင်များမှ ကြီးကြပ်ထုတ်လုပ်သွားပါမည်။ ကျောက်ခွဲစက်ထားရှိသည့်ဧရိယာတွင် လေထုညစ်ညမ်းမှုမရှိစေရန် အထူးကြပ်မတ် ဆောင်ရွက်ပါမည်။

(ဆ) အထွေထွေသုံး ခွဲကျောက်အား စက်ယန္တရားများကို အသုံးပြု၍ ထုတ်လုပ်မည်ဖြစ်ပါသည်။ ကျောက်ခွဲစက်တွင် အသုံးပြုမည့် မီးစက်ကြီးများကိုလည်း ဆူညံမှုမရှိစေရန် အဆောက်အအုံဖြင့် ထားရှိပါမည်။

(ဇ ) အထွေထွေသုံးခွဲကျောက်ထုတ်လုပ်မှုပမာဏမှာ တစ်နှစ်လျှင် (၄၇၀၀၀)ကျင်း၊ ထုတ်လုပ်ရန် လျာထားရာ နိုင်ငံတော်ရှိ ဆောက်လုပ်ရေးစီမံကိန်းများအပေါ်မူတည်၍ တိုးချဲ့ထုတ်လုပ်သွားပါမည်။

(ဈ) အထွေထွေသုံးခွဲကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ဒေသခံပြည်သူများကို ကျွမ်းကျင်ပညာရှင်များမှ သင်တန်းပို့ချခြင်းများ ဆောင်ရွက်သွားပါမည်။

(ည) ကျောက်ထုတ်လုပ်ငန်းမှ ထွက်ပေါ်လာသော စွန့်ပစ်မြေစာများကို စနစ်တကျစွန့်ပစ်ပါမည်။

(ဋ ) ဝန်ထမ်းဆောင်၊ စားဖိုဆောင်၊ ဝန်ထမ်းများ ကိုယ်ကာယလေ့ကျင့်သည့်ဧရိယာ၊ ပစ္စည်းသိုလောင်ရုံ လောင်စာဆီသိုလောင်ရုံ စသည့်အဆောက်အအုံဧရိယာများကို သီးသန့်ခွဲခြားထားရှိပါမည်။

(ဌ) ပစ္စည်းသိုလောင်ရုံနှင့် လောင်စာဆီသိုလောင်ရုံများတွင် မီးဘေးအန္တရာယ်ကာကွယ်ရေးအား အထူးစီမံကြပ်မတ်၍ မီးသတ်ပစ္စည်းများ ပြည့်စုံစွာ ထားရှိပါမည်။ လောင်စာဆီသိုလောင်ရုံဝန်းကျင်တွင် ရေကန်ထားရှိခြင်းများ ဆောင်ရွက်သွားမည်။

(ဍ) ဝန်ထမ်းဆောင်နှင့် စားဖိုဆောင်ကို လုပ်ငန်းခွင်နှင့် အသင့်တင့် ကွာဝေးသောနေရာတွင် ထားရှိပါမည်။

(ဎ) ဝန်ထမ်းများ ကျန်းမာရေးအတွက် ဆေးခန်း၊ ကိုယ်ကာယလေ့ကျင့်ခန်း၊ ဘုရားခန်းများကို သပ်ရပ်စွာ ထားရှိပါမည်။

(ဏ) ကျောက်ထုတ်လုပ်ငန်းဆောင်ရွက်မည့် အချိန်ကာလတွင် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်စောင့်ရှောက်မှု လုပ်ငန်းစီမံကိန်းကို အထူးကြပ်မတ် ဆောင်ရွက်သွားပါမည်။

**Myanma Rock Mountain Co., Ltd.**

No.(77-A), Than Lwin Road, Kamaryut Tonship, Yangon. ☎ : 01-503697, 📱 : 09-5194349, 09-49222634

E-mail : mrmountain08@gmail.com



၄။ ကျောက်ထုတ်လုပ်ငန်း၏ ပတ်ဝန်းကျင်ကာကွယ်ထိန်းသိမ်းဆောင်ရွက်မှု

(က) ကျောက်ထုတ်လုပ်မည့် ကျောက်ဆောင်ဧရိယာတွင် လမ်းများဖောက်လုပ်ရာ၌သော်လည်းကောင်း၊ ကျောက်များသယ်ဆောင်ရာတွင်လည်းကောင်း ဖုန်ထခြင်းကြောင့် လေထုတ်ညစ်ညမ်းမှုကို ရေဖြန်းမှုဖြင့် လေထုညစ်ညမ်းမှုကို ကာကွယ်ပါသည်။

(ခ ) ကျောက်မိုင်းလုပ်ကွက်ဖော်ရာ၌ ကျောက်ဖောက်စက်များဖြင့် လွန်းတူးရာမှ ထွက်ရှိသောအမှုအမှားကြောင့် လေထုညစ်ညမ်းမှု မဖြစ်စေရန် အထူးဂရုစိုက်ပါမည်။ ဖုန်ထမှုဖြစ်လျှင် ရေဖြန်း၍ ဖုန်ထခြင်းကို ကာကွယ်ပါမည်။

(ဂ ) ရေမြောင်းများကို စနစ်တကျ တူးဖော်ကာ ရေစီးဆင်းမှုကောင်းမွန်မှုရှိအောင်၊ ရေမြောင်းပတ်ဆို့မှု မဖြစ်အောင် အထူးဂရုစိုက်ပါမည်။

(ဃ) ကျောက်မိုင်းမှ ထွက်ရှိလာသော စွန့်ပစ်မြေစာများအား မြေလွတ်၊ မြေရိုင်းနေရာ၌ စနစ်တကျ စွန့်ပစ်ခြင်း မြေဆီများညီသွားလျှင် ၎င်းဧရိယာ၌ ဒေသပေါက်အပင်များ စိုက်ပျိုးခြင်ဖြင့် ပတ်ဝန်းကျင်ကို ထိန်းသိမ်းသွားပါမည်။

(င ) ပစ္စည်းသိုလှောင်ရုံ လောင်စာသိုလှောင်ရုံများကို လုပ်ငန်းခွင်ဧရိယာနှင့် သင့်တင့်သော အကွာအဝေးနေရာတွင် ထားရှိပြီး မီးဘေးအန္တရာယ်ကာကွယ်မှုကို အထူးကြပ်မတ်ဆောင်ရွက်သွားပါမည်။ မီးသတ်ပစ္စည်းများကို ပြည်စုံစွာ ထားရှိပါမည်။ လောင်စာဆီ သိုလှောင်ရုံဝန်းကျင်တွင် ရေကန်ထားရှိခြင်း၊ (၂၄)နာရီအစောင့် ထားရှိခြင်းများ ဆောင်ရွက်ခြင်းဖြင့် မီးဘေးအန္တရာယ်ကို ကာကွယ်ပါမည်။

(စ ) ဝန်ထမ်းဆောင်၊ စားဖိုဆောင်၊ ဝန်ထမ်းကိုယ်ကာယလေ့ကျင့်ရန် ဧရိယာများ၌ ဒေသထွက်ဟင်းသီးဟင်းရွက်များကို စိုက်ပျိုးခြင်း၊ အရိပ်ရပင်များ စိုက်ပျိုးခြင်းဖြင့် စိမ်းလန်းစိုပြေကာ ပတ်ဝန်းကျင်ထိန်းသိမ်းဆောင်ရွက်သွားပါမည်။

(ဆ) စက်ယန္တာယားမှ ထွက်ပေါ်လာသော ချောဆီများကို စနစ်တကျ စွန့်ပစ်ပါမည်။ မိလ္လာအညစ်အကြေးများကို မိလ္လာကန်ဆောက်လုပ် စွန့်ပစ်ခြင်းများကို စနစ်တကျ ဆောင်ရွက်ပါမည်။

(ည) ကျောက်ထုတ်လုပ်ရာတွင် ကျောက်မိုင်းအတွက် အသုံးပြုသော မြေဧရိယာ၏ (၂၀%) ဧရိယာအတွက် PES (Payment For Environmental Service) အား မိမိတို့ကုမ္ပဏီမှ ကုန်ကျခံ၍ ဌာနမှ သတ်မှတ်သော မြေနေရာတွင် အပင်စိုက်ပျိုးခြင်းများ ဆောင်ရွက်ရာတွင် ယခုနှစ် ၂၀၁၅ ဒီဇင်ဘာလတွင် အပြီးစိုက်ပျိုးသွားပါမည်။

Myanma Rock Mountain Co., Ltd.

No.(77-A), Than Lwin Road, Kamaryut Tonship, Yangon. ☎ : 01-503697, 📱 : 09-5194349, 09-49222634

E-mail : mrmountain08@gmail.com

၅။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်စောင့်ရှောက်ခြင်းလုပ်ငန်းများ

(က) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်စောင့်ရှောက်ခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် သဘာဝသစ်တောအား ထိန်းသိမ်းခြင်း၊ တောတွင်းတိရိစ္ဆာန်များကာကွယ်စောင့်ရှောက်ခြင်းများအပြင် လုပ်ငန်းခွင်ဧရိယာတွင် ယဉ်ကျေးမှုအမွေအနှစ် အဆောက်အအုံများရှိပါက မပျက်စီးအောင် ကာကွယ်စောင့်ရှောက်ပါမည်။

(ခ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်စောင့်ရှောက်ရေးနှင့် ပတ်သက်၍ သက်ဆိုင်ရာမှ ချမှတ်ထားသောစည်းမျဉ်းစည်းကမ်းအတိုင်းလိုက်နာဆောင်ရွက်သွားပါမည်။

(ဂ) ကျောက်ထုတ်လုပ်ငန်းပြီးဆုံးချိန်တွင် လုပ်ငန်းအသုံးပြုသော မြေဧရိယာ၌ဒေသပေါက်သစ်ပင်များ ပြန်လည်စိုက်ပျိုးခြင်းဖြင့် သစ်ပင်များနှင့် စိမ်းလန်းဝေဆာသော ဧရိယာဖြစ်စေပါမည်။

(ဃ) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်စောင့်ရှောက်ရေးနှင့် ပတ်သက်၍ သက်ဆိုင်ရာ အာဏာပိုင်အဖွဲ့အစည်းများ၏ လမ်းညွှန်မှုများကို အမြဲခံယူပြီး သဘာဝပတ်ဝန်းကျင် ထိခိုက်မှု မဖြစ်အောင် အလေးအနက်စောင့်ရှောက်လိုက်နာ ဆောင်ရွက်သွားပါမည်။

၆။ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပါကြောင်း လေးစားစွာ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်သူသူမြင့်

မန်နေဂျင်းဒါရိုက်တာ

မြန်မာ့ရော့(ခ်) မောင်တိန်း ကုမ္ပဏီလီမိတက်

GREEN ENVIRO SERVICES LTD.

No(1), Thitsar Yeik Thar Street, 12 Ward, Yankin Township, Yangon, Myanmar.
095-053-348, 095-096-601, greenenviroservices14@gmail.com

Green Enviro Services Ltd. No...... Date......

သို့

ဥက္ကဋ္ဌ၊

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၅ ခုနှစ်၊ အောက်တိုဘာလ (၇)ရက်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် Myanma Rock Mountain Co., Ltd. မှ လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံး ကျောက်ထုတ်လုပ်မှု လုပ်ငန်းစီမံကိန်းနှင့် ပတ်သက်၍ ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုမရှိစေရန် အကောင်အထည်ဖော်ဆောင်ရွက်မည့် အသေးစိတ်အစီအစဉ်များ ရေးဆွဲမည့်အခြေအနေတင်ပြခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂-၁၀-၂၀၁၅) ရက်စွဲပါ စာအမှတ်၊ (ရက-၅ (အ)/မ-၀၀၃/၂၀၁၅ (၃၃၁-ခ))

Myanma Rock Mountain Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြီးဝိုင်း၊ အကွက်အမှတ်-၁၂ရှိ မြေ (၄၈)အေား ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနမှ နှစ်ရှည်မြေငှားရမ်းစနစ်ဖြင့် ငှားရမ်း၍သော်လည်းကောင်း၊ ဦးပိုင်အမှတ် (N-၅၇၀၊ N-၆၈၆၊ N-၈၅၆)၊ ဇာဒိကျေးရွာအုပ်စု၊ ရေဖြူမြို့နယ်ရှိ စုစုပေါင်းမြေ (၁၄. ၇၁ ဧက) တွင်လည်းကောင်း လမ်းခင်းကျောက်နှင့် ဆောက်လုပ်ရေးလုပ်ငန်းသုံးကျောက်ထုတ်လုပ်မှုလုပ်ငန်းစီမံကိန်းကို အကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပါသည်။

ယင်းစီမံကိန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးစေမှုများ၊ လူမှုအကျိုးစီးပွားနှင့်ကျန်းမာရေးအပေါ်ထိခိုက်စေမှုများမရှိစေရန် (သို့မဟုတ်) နည်းပါးစေရန်အတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုဆန်းစစ်လေ့လာခြင်း (Environmental Impact Assessment-EIA) လုပ်ငန်းနှင့် အဆိုပါဆန်းစစ်လေ့လာတွေ့ရှိချက်များကိုအခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုမဖြစ်စေရန် (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် အတွက်ဆောင်ရွက်မည့်အစီအမံများပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) တို့ကို ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၂၀၁၂-အရလည်းကောင်း၊ ပတ်ဝန်းကျင်ထိန်း

၄။ အငှားချထားခြင်းခံရသူ၏ ကနဦးရင်းနှီးမြှုပ်နှံမှု

(က) "အငှားချထားခြင်းခံရသူ" မှ လမ်းခင်းကျောက် ထုတ်လုပ်ရန်အတွက် ကနဦးရင်းနှီး မြှုပ်နှံမှုအဖြစ် အောက်ပါအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ပါသည် -

(၁) "အငှားချထားခြင်းခံသူ" မှ လမ်းခင်းကျောက်တူးဖော် ထုတ်လုပ်ရန်အတွက် ဂက်ပစ္စည်းများ ဝယ်ယူမှုနှင့် လုပ်ငန်းလည်ပတ်ငွေများအပါအဝင် မြန်မာကျပ်ငွေသန်းပေါင်း(၁,၅၀၀) (ကျပ်သန်းတစ်ထောင့်ငါးရာကျပ်တိတိ)ကို ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားမည်။

၅။ ခွင့်ပြုဧရိယာ(၄၈)ဧကတွင် လမ်းခင်းကျောက် ထုတ်လုပ်ရောင်းချခြင်းအတွက် ငွေပေးသွင်းမှုနှင့် ယင်း၏စည်းကမ်းသတ်မှတ်ချက်များ

(က) တစ်ဧကမြေငှားရမ်းခနှုန်းကို ပုံသေသတ်မှတ်ထားခြင်းမပြုလုပ်ပဲ တစ်ချိန်တွင် မြေငှားရမ်းခနှုန်းကို နိုင်ငံတော်မှ သတ်မှတ်သည့်အတိုင်း ပေးသွင်းရန်။

(ခ) "အငှားချထားခြင်းခံရသူ"သည် မြေငှားရမ်းခများကို "အငှားချထားသူ"ထံသို့ ပထမနှစ် အတွက် သတ်မှတ်ထားသော အခွန်ငွေကို စာချုပ်မချုပ်မီ ကြိုတင်ပေးသွင်းရမည်၊ နောက်နှစ်များတွင်လည်း နှစ်စဉ်ငှားရမ်းနှစ် မစတင်မီ ရက်ပေါင်း(၃၀) အတွင်း ကြိုတင်ပေးသွင်းရမည်။ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက နောက်ကျသည့် ရက်များအတွက် တရက်လျှင် ဒဏ်ကြေးငွေကျပ်(၅၀၀၀)နှုန်း ပေးဆောင်ရပါမည်။

(ဂ) ငှားရမ်းသည့်စာချုပ်ကို လုပ်ငန်းစတင်မည့် ၂၀၁၅-၂၀၁၆ ခုနှစ်တွင် စာချုပ်ချုပ်ဆိုသွားမည်ဖြစ်ပြီး စာချုပ်ကာလမှာ ၂၀၁၅ ခုနှစ်၊ XXX လ၊ XXX ရက်မှ ၂၀၄၄ ခုနှစ်။ XXX လ၊ XXX ရက်အထိ နှစ်(၃၀)ဖြစ်ပါသည်။

၆။ အငှားချထားသူ၏ တာဝန်ဝတ္တရားများ

အငှားချထားသူသည်

(က) သက်ဆိုင်ရာအုပ်ချုပ်ရေးအဖွဲ့ အစည်းများထံမှ လိုအပ်သောခွင့်ပြုချက်များရယူရမည်။

(ခ) "အငှားချထားခံရသူ"က လိုအပ်သောခွင့်ပြုချက်များ မှတ်ပုံတင်များ၊ လိုင်စင်များ၊ အခြားလိုအပ်သော အချက်အလက်များကို သက်ဆိုင်ရာ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ အဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) "အငှားချထားခံရသူ"က ငှားရမ်းသည့်ကာလအတွင်း လုပ်ပိုင်ခွင့်ရရှိထားသော မြေ(၄၈)ဧက ကို စည်းကမ်းချက်များနှင့်အညီ လက်ဝယ်ထား၍ ဆောင်ရွက်ခွင့်ရှိစေရန်အတွက် " အငှားချထားသူ"

ကသော်လည်းကောင်း ယင်း၏ကိုယ်စားပြုသူကလည်းကောင်း ဝင်ရောက်စွက်ဖက်ခြင်း၊ နှောက်ယှက်ခြင်းများ မပြုလုပ်ရန် တာဝန်ယူရမည်။

(ဃ) "အငှားချထားခံရသူ" က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံသို့ စီမံကိန်းဆိုင်ရာ လုပ်ငန်းများအတွက် အခွန်ကင်းလွှတ်ခွင့်၊ သက်သာခွင့်နှင့် အခြားအထူးခံစားခွင့်များ လျှောက်ထားရာတွင် ကူညီဆောင်ရွက်ပေးရမည်။

၇။ အငှားချထားခံရသူ၏ လိုက်နာရမည့် စည်းကမ်းချက်များနှင့် အခွင့်အရေးများ

(က) ဤစာချုပ်ပါ ရင်းနှီးမြှုပ်နှံမှုနှင့် စီးပွားရေးလုပ်ဆောင်မှုအားလုံးကို ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အညီ ဆောင်ရွက်ရမည်။

(ခ) အငှားချထားသူက ဤစာချုပ်အရ အကျိုးဝင်သော လုပ်ဆောင်မှုများ နှင့်ပတ်သတ်၍ သတင်းအချက်အလက်များကို အကြောင်းအားလျော်စွာ တောင်းခံလားတိုင်း အငှားချထားသူသို့ တင်ပြရမည်။

(ဂ) မြန်မာ့အာမခံဥပဒေနှင့်အညီ လိုအပ်သောအာမခံများကို သစ်တောဦးစီဌာန အမည်ခံဖြင့် ထားရှိရမည်။

(ဃ) ငှားရမ်းခကို သတ်မှတ်နှုန်းထားနှင့်သတ်မှတ်သော နည်းလမ်းများအတိုင်း သတ်မှတ်ချိန် အတွင်း အတိအကျ ပေးချေရမည်။

(င) လုပ်ကိုင်ခွင့်ရရှိသည့် သက်တမ်းအတွင်း လုပ်ကိုင်ခွင့်ရရှိသူက ကွယ်လွန်လျှင် ၎င်း၏ အမွေဆက်ခံခွင့်ရရှိသူက ခိုင်လုံသောအထောက်အထားများတင်ပြ၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ ခွင့်ပြုချက်ဖြင့် ဆက်လက် လုပ်ကိုင်ခွင့်ရှိသည်။

(ဆ) အငှားချထားခြင်းခံရသူသည် ခွင့်ပြုထားသည့် မြေဧရိယာတွင် လမ်းခင်းကျောက်တူး ဖော်ထုတ်လုပ်ရာတွင် ကျောက်(၁)ကျင်းလျှင် ဒေသပေါက်ဈေး၏ ၂၅%ဖြင့် စုစုပေါင်း ထုတ်လုပ်သည့် လမ်းခင်းကျောက်ပမာဏ (ကျင်း)အတွက် ကျသင့်အခွန်ငွေကို သတ်မှတ်သည့်နည်းလမ်းနှင့်အညီ သစ်တောဦးစီးဌာနသို့ ပေးသွင်းရမည်။

(ဇ) သဘာဝပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှုအတွက် လုပ်ငန်းဆောင်ရွက်ရန် ခွင့်ပြုထားသည့် မြေဧရိယာ (၄၈)ဧက၏ ၂၀% ကို ရေမြေ ထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် ကြီးကြပ်စစ်ဆေးရန် လွယ်ကူမည့် သစ်တောနယ်မြေ အတွင်း တည်ထောင်စိုက်ပျိုးပေးရန် ဝန်ခံကတိပြုပြီး တည်ထောင်စိုက်ပျိုးပေးရမည်။

(ဉ) ကျောက်တူးဖော်ထုတ်လုပ်ရန် ခွင့်ပြုမြေဧရိယာ(၁)ဧကလျှင် လုပ်ငန်းအာမခံငွေ ကျပ် ၅၀၀၀၀ နှုန်းဖြင့် သစ်တောဦးစီးဌာနမှ သတ်မှတ်သည့် မြန်မာ့စီးပွားရေးဘဏ်တွင် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေးသွင်းရမည်။

(ည) ကျောက်တူးဖော်မည့်ဧရိယာကို ထင်ရှားသောနယ်နိမိတ်သတ်မှတ်ရန်နှင့် ကုန်ကျစရိတ်ကို အငှားချထားခြင်း ခံရသူမှ ကျခံရမည်။

(ဌ) ကျောက်တူးဖော်ခွင့်ပြုထားသည့် ဧရိယာအတွင်းသော်လည်းကောင်း၊ အပြင်သော်လည်းကောင်း၊ သစ်ပင်ခုတ်လှဲ ခြင်းမပြုလုပ်ရန်၊ မလွှဲမရှောင်သာ၍ ခုတ်လှဲရန် လိုအပ်ပါက သစ်တော်ဦးစီးဌာန၏ ခွင့်ပြုချက်အရ ခွင့်ပြုချက်ကို ကြိုတင်ရယူရမည်။

(ဍ) သစ်တောဦးစီးဌာန၏ ခွင့်ပြုချက်အရ ခုတ်လှဲပြီးသောသစ်ပင်များကို အသုံးပြုလိုပါက သစ်တော်ဦးစီးဌာနမှ သတ်မှတ်ထားသော ဈေးနှုန်းဖြင့်ဝယ်ယူသုံးစွဲရမည်။

(ဎ) ကျောက်တူးဖော်သည့် လုပ်ငန်းဆောက်ရွက်နေစဉ် နေထိုင်ရန် ယာယီနေအိမ်တဲမှ အပ အခြားအခိုင်အမာ အဆောက်အအုံများ ဆောက်လုပ်ခြင်းမပြုလုပ်ရ။

(ဏ) ကြိုးဝိုင်းအတွင်းကျောက်တူးဖော်ရာတွင် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေနိုင်သဖြင့် ထိခိုက်မှုအနည်းဆုံးဖြစ်မည့် ပေါက်ကွဲစေတတ်သော ပစ္စည်းများကိုသာ အသုံးပြု၍ တူးဖော်ရမည်။

(တ) လုပ်ကိုင်ခွင့်ရသည့်မြေကို ကျောက်တူးဖော်ခြင်းလုပ်ငန်းမှတပါး အခြားစီးပွားရေးလုပ်ငန်းများအတွက် အသုံးမပြုရ။

(ထ) ကျောက်ထုတ်လုပ်မည့်စာရင်းများကို ထုတ်လုပ်သူမှ စနစ်တကျပြုစုထားရှိပြီး လစဉ်တိုးတက်မှုကို နောက်လပထမအပတ်အတွင်း သက်ဆိုင်ရာမြို့နယ် သစ်တောဦးစီးဌာန၊ ဦးစီးအရာရှိထံ လစဉ် တင်ပြရမည်။

(ဒ) ကျောက်ထုတ်လုပ်မည့် စာရင်းဇယားများနှင့် ကျောက်ထုတ်လုပ်မှုအခြေအနေကို သစ်တောဦးစီးဌာန တာဝန်ရှိပုဂ္ဂိုလ်များအား အချိန်းမရွေး ဝင်ရောက်စစ်ဆေးခွင့်ပြုရမည်။

(ဓ) ဖော်ပြပါစည်းကမ်းချက် တစ်စုံတစ်ရာကို ချိုးဖောက်ပါက ကျောက်တူးဖော် လုပ်ကိုင်ခွင့် ရုပ်သိမ်းခြင်းခံရမည်။

၈။ စာချုပ်စတင်အကျိုးသက်ရောက်သောနေ့

ဤစာချုပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိပြီးနောက် အသိသက်သေများရှေ့တွင် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့ရက်မှ စတင်အကျိုးသက်ရောက်မှုရှိစေရမည်။

၉။ စာချုပ်သက်တမ်းကာလ

ငှားရမ်းလုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၃၀)ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အတည်ပြုချက်ရရှိပြီးနောက် နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသောနေ့ရက်မှ စတင်ရေတွက်သွားမည်ဖြစ်သည်။

၁၀။ စာချုပ်သက်တမ်းကုန်ဆုံးခြင်း

ဤစာချုပ်သက်တမ်းသည် ငှားရမ်းကာလပြည့်မြောက်သည့်နေ့ (သို့) စာချုပ်ပါလုပ်ငန်းများကို "အငှားချထားခြင်းခံရသူ နှင့် "အငှားချထားသူ"တို့ အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးသည့်နေ့တွင် ကုန်ဆုံးသည်ဟုမှတ်ယူရမည်။ သို့သေ "အငှားချထားခြင်းခံရသူ"၏ ပျက်ကွက်မှုကြောင့် "အငှားချထားသူ"က စာချုပ်ပါ စည်းကမ်းချက်နှင့်အညီ ဆောက်ရွက်ရ တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း (၁)လအတွင်း လုပ်ငန်းများကို ဆောက်ရွက်ခြင်းမရှိ၍ ငှားရမ်းခြင်းကို ရပ်ဆိုင သော နေ့သည် စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ဟု မှတ်ယူရမည်။

၁၁။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်း

"အငှားချထားခြင်းခံရသူ"သည် (၂၀၁၅-၂၀၁၆) ဘဏ္ဍာနှစ်မှ စတင်၍ (၂၀၄၄-၅၅) ဘဏ္ဍာနှစ် အထိ နှစ်စ ကျောက်ကျင်းရေ (၄၀,၀၀၀ မှ ၁၀၀,၀၀၀ ထိ) နှစ်စဉ် ထုတ်လုပ်ရောင်းချမည်ဖြစ်ပါသည်၊ အငှားချထားသည့်ကာလကို ကနဦ သက်တမ်း နှစ်(၃၀) သတ်မှတ်ပြီး နှစ်ဦးနှစ်ဖက် ညှိနှိုင်း၍ နောက်ထပ်တစ်ကြိမ် (၅) နှစ်ဖြင့် (၂) ကြိမ်အထိဆက်တိုက် သက်တမ တိုးမြှင့်ခွင့်ရှိပါသည်။

၁၂။ စာချုပ်ရပ်စဲခြင်း

ဤစာချုပ်သည် အောက်ဖော်ပြပါ အခြေအနေ တစ်ရပ်ရပ်ဖြစ်ပေါ်လာပါက မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် အတည်ပြုချက် ရရှိသည့်အခါ ရပ်စဲသွားမည်ဖြစ်ပါသည် -

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့ အသီးသီး၏ လွတ်လပ်သော သဘောဆန္ဒ အလျောက် စာချုပ်ရပ်စဲရန် သဘောတူပြီး ကောင်မရှင်သို့ စာဖြင့်တင်ပြလျက် ကော်မရှင်ကလည်း သဘောတူခွင့်ပြုသည့်အခါ

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်က ဤစာချုပ်ပါဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် တာဝန်ပျက်ကွက်သည့် အခါ

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်များသည် တဆက်တည်း (၆)လထက် ကျော်လွန်နေသည့်အခါ

(ဃ) စာချုပ်သက်တမ်းကုန်သည့်အခါ

၁၃။ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

"အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့် မြေဧရိယာ (၄၈)ကေ၏ ပတ်ဝန်းကျင်ရှိ လေထု၊ မြေထု ညစ်ညမ်း မရှိစေရန်နှင့် ခွဲကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောက်ရွက်မှုကြောင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှုနှင့် အနီးဝန်းကျင ဒေသခံပြည်သူများ၏ လူမှုရေး၊ ကျန်းမာရေးဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာပါက ထိခိုက်မှုများအတွက် ပြန်လည်ဆောင်ရွက်

ပေးသည့် အစီအစဉ်များရှိစေရန် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရ၏ တည်ဆဲဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ်တကျ အကောင်အထည်ဖော်ဆောင်ရွက်ရမည်။

၁၄။ ခါတ်သတ္တုအရင်းအမြစ်များ

ဤစာချုပ်ပါ ငှားရမ်းကာလအတွင်း ငှားရမ်းထားသည့်မြေ(၄၈)ဧက တည်ရှိရာ မြေပေါ်မှ ခါတ်သတ္တုအရင်းအမြစ်များ၊ ရတနာများ၊ ရှေးဟောင်းအနုပညာများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာ အရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတပစ္စည်းများကို တွေ့ရှိလျှင် "အငှားချထားခြင်းခံရသူ"သည် သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတနိုင်ငံတော် အစိုးရအဖွဲ့အစည်းများသို့ ချက်ခြင်း အကြောင်းကြားရမည်။ ထို့ပြင် အထက်ပါပစ္စည်းများအား ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော် အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့်ရှိစေရမည်။

၁၅။ ငှားရမ်းမြေအားပြန်လည်ရယူခွင့်

အငှားချထားခံရသူသည် စာချုပ်ပါစည်းကမ်းချက် တစ်ရပ်ရပ်ကိုဆောင်ရွက်ရန် သို့မဟုတ် လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ပျက်ကွက်မှုကို ပြုပြင်ရန် သို့မဟုတ် လိုက်နာရန် အငှားချထားခံရသူကို အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာ ပါကာလအတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်မြေကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူမှ ရရန်ရှိသော ငှားရမ်းခ သို့မဟုတ် ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခြင်းကို ထိခိုက်ခြင်းမရှိ စေရ။

၁၆။ လုပ်ငန်းအာမခံငွေ

(က) အငှားချထားခံရသူမှ ဘဂါကြီးဝိုင်း၊ အကွက်အမှတ်(၁၂)ရှိ မြေ(၄၈)ဧကတွင် လမ်းခင်းကျောက် တူးဖော်ထုတ်လုပ်ခြင်းအတွက် လုပ်ငန်းအာမခံငွေအဖြစ်တစ်ဧကလျှင် ကျပ်၅၀၀၀၀(ကျပ်ငါးသောင်းကျပ်တိတိ)နှုန်းဖြင့် စုစုပေါင်း ၂၄၀၀၀၀၀/- (ကျပ် နှစ်ဆယ့်လေးသိန်းကျပ်တိတိ)ကို သစ်တော်ဦးစီးဌာနသို့ သတ်မှတ်ထားသော နည်းလမ်းဖြင့် စာချုပ်မချုပ်ဆိုမီ ကြိုတင်ပေး သွင်းရမည်။

(ခ) စာချုပ်သက်တမ်း ကုန်ဆုံးလျှင်သော်လည်းကောင်း၊ လုပ်ငန်းမလုပ်လိုတော့၍ ပြန်လည်အပ်နှံလျှင်သော်လည်းကောင်း၊ ဝန်ခံကတိပြုထားသည့် ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀% ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပြီးစီးပါက လုပ်ငန်းအာမခံငွေကို ပြန်လည်ထုတ်ယူခွင့်ရှိသည်။

(ဂ) ခွင့်ပြုမြေဧရိယာပမာဏ၏ ၂၀%ကို ရေမြေထိန်းသိမ်းရေး သစ်တောစိုက်ခင်းအဖြစ် တည်ထောင်စိုက်ပျိုးပေးမည်ဖြစ်ကြောင်း ဝန်ခံကတိအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်ပါက အဆိုပါ လုပ်ငန်းအာမခံငွေအား ဘဏ္ဍာငွေအဖြစ် သိမ်းယူခွင့်ရှိသည်။

၁၇။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ

(က) စာချုပ်ဝင်တစ်ဖက်ဖက်သည် မိမိ၏တာဝန်ဝတ္တရားများကို ဆောက်ရွက်ရာတွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ကြောင့်ပျက်ကွက်ခြင်း၊ နှောင့်နှေးခြင်းများရှိပါသဖြင့် အခြားစာချုပ်ဝင် တစ်ဖက်ဖက်တွင် နစ်နာမှုများ ပေါ်ပေါက်လျှင် ထိုသူသည် ထိုနစ်နာမှုများအတွက် တာဝန်မရှိစေရ။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ အစိုးရအဖွဲ့ တစ်ဖွဲ့ဖွဲ့၏ တားဆီးမိန့်၊ သပိတ်မှောက်ခြင်း၊ စစ်ဖြစ်မှု၊ လျှော်လှုပ်ခြင်း၊ ပိတ်ဆို့တားဆီးမှု၊ ရေကြီးမှု၊ မုန်တိုင်း ကျမှုစသော် သဘာဝဘေးဒဏ်ဖြစ်ခဲ့လျှင် စာချုပ်ဝင်တဖက်ဖက်က လိုအပ်သော သတိဝီရိနှင့် ဆောက်ရွက်စေကာမူ မလွန်ဆန်/ မကျော်လွှား နိုင်သည့် အလားတူဖြစ်ရပ်များဖြစ်သည်။

(ခ) စာချုပ်ဝင်များသည် ထိုကဲ့သို့ မလွန်ဆန်နိုင်သောဖြစ်ရပ်များနှင့် ကြုံတွေ့ရလျှင် ကြုံတွေ့ရသူက အခြားစာချုပ်ဝင် အား ထိုအဖြစ်အပျက်ဖြစ်ပွားပြီး (၁၅)ရက်အတွင်း ဖြစ်ပွားမှုအခြေအနေအသေးစိတ်ကို အကြောင်းကြားရန်နှင့် ထိုကာလအတွင်း ဖြစ်ပေါ်မှု အခြေအနေ၊ မိမိက ဆုံးဖြတ်ဆောင်ရွက်ရမည့် အခြေအနေများနှင့် အရေးပေါ် ဆောင်ရွက်ခဲ့မှု အခြေအနေများကို အကြောင်းကြားရမည်။ အဆိုပါဖြစ်ရပ်ကို ကြုံတွေ့ခံစားရသူ၏ တာဝန်များကို ထိုမလွန်ဆန်နိုင်သော ကာလအတွင်း ဆိုင်းငံ့စေရမည်။ သို့ရာတွင် ထိုသို့ဆိုင်ငံ့ကာလသည် အကျိုးအကြောင်း ဆက်နွယ်မှု အရလိုအပ်သည်ထပ် ပိုမို၍မကြန့်ကြာစေရဘဲ ထိုအဖြစ်အပျက်ကိုလည်း မလွန်ဆန်နိုင်သော ဖြစ်ရပ်ခံသူက အမြန်ဆုံးဖြစ်နိုင်သမျှ ဖယ်ရှားပစ်ရမည်။

၁၈။ စာချုပ်ပြင်ဆင်ဖြည့်စွက်ခြင်း

ဤစာချုပ်အား နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုမရရှိပဲ၊ ပြင်ဆင်ဖြည့်စွက်ခြင်း လုံးဝမပြုလုပ်ရ။ သို့သော် ခိုင်မာသော ကိစ္စတစ်ရပ်ရပ်ကြောင့် ဤစာချုပ်ကို ပြင်ဆင်ရန် လိုအပ်ပါက၊ နှစ်ဦးနှစ်ဖက်စာဖြင့် သဘောတူညီမှုရယူ၍ လိုအပ်သလို ပြင်ဆင် ဖြည့်စွက်နိုင်သည်။ ဤစာချုပ်အား ပြင်ဆင်ဖြည့်စွက်ချက် အရပ်ရပ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အတည်ပြုချက်ရရှိ မှသာ အတည်ဖြစ်သည်။

၁၉။ မြေပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

(က) ငှားရမ်းကာလနှစ်(၃၀)ကုန်ဆုံးသည့်အခါ သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူညီပြီး နောက်ထပ်တစ်ကြိမ်လျှင် (၅)နှစ်နှင့်ဆက်တိုက်(၂)ကြိမ် သက်တမ်းတိုး ကာလကုန်ဆုံးသည့်အခါအငှားချထားသည့်မြေကို အငှားချထားသူသို့ အငှားချထားခြင်းခံရသူက ငှားရမ်းစဉ်အခြေအနေထက် မနိမ့်ကျဘဲ စာချုပ်သက်တမ်း ကုန်ဆုံးပြီး(၃၀)ရက်အတွင်း အဖိုးစားနားမဲ့လွှဲပြောင်းပေးရမည်။

(ခ) မြေများသည် နိုင်ငံတော်ပိုင်ဖြစ်သည့်အတွက် နိုင်ငံတော်မှလိုအပ်လျှင် အချိန်းမရွေး ပြန်လည်ရယူနိုင်သည်။

၂၀။ အငြင်းပွားမှုဖြေရှင်းခြင်း (အနညာတစီရင်ခြင်း)

ဤစာချုပ်နှင့် ပတ်သတ်၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက် ပြေလည်စွာ ညှိနှိုင်းဖြေရှင်းေ မည်။ ထိုသို့ဖြေရှင်း၍မရပါက၊ ထိုအငြင်းပွားမှုကို တစ်ဖက်စီက တစ်ဦး စီခန့်ထားသော ခုံလူကြီးနှစ်ဦးဖြင့် ဖြေရှင်းရမည်။ ခုံလူကြီး နှစ်ဦးက မဖြေရှင်း မဆုံးဖြတ်နိုင်လျှင် ခုံလူကြီးနှစ်ဦးကရွေးချယ်ခန့်ထားသော သမာဓိလူကြီး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်၊ ခုံလူကြီး နှစ်ဦး (သို့မဟုတ်) သမာဓိလူကြီး၏ ဆုံးဖြတ်ချက်သည် အပြီးဖြစ်စေရမည့်အပြင်၊ နှစ်ဖက်အမှုသည်များအပေါ် တွင်လည်း အတည်ဖြစ်ရမည်။ အနညာတ စီရင်ဆုံးဖြတ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများသည် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနညာတစီရင်ဆုံးဖြတ်ခြင်းအက်ဥပဒေ (မြန်မာနိုင်ငံအက်ဥပဒေအမှတ်-၄/၁၉၄၄)နှင့် နောက်ပိုင်ထုတ်ပြန်သော တည်ဆဲ ပြင်ဆင်ချက်များနှင့်အညီ ဖြစ်စေရမည်။ အနညာတစီရင်ဆုံးဖြတ်မည့်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် ရန်ကုန်မြို့ ဖြစ်စေရမည်။ အမှုအတွက် ကုန်ကျစရိတ်များကို အမှုရှုံးသူက ကျခံရမည်။

၂၁။ စာပေးစာယူပြုလုပ်ရန်လိပ်စာများ

"အငှားချထားခြင်းခံရသူ" နှင့် "အငှားချထားသူ"တို့အကြားဆက်သွယ်ခြင်း၊ အကြောင်းကြားစာပေးပို့ခြင်းများကို အောက်ပါလိပ်စာအတိုင်းလိပ်မူရမည်။ လိပ်စာပြောင်းလဲခြင်းရှိပါက တစ်ဖက်သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။

"အငှားချထားသူ"အတွက်
ညွှန်ကြားရေးမှူးချုပ်
သစ်တော်ဦးစီးဌာန
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်
သစ်တောရေးရာဝန်ကြီးဌာန
နေပြည်တော်

"အငှားချထားခြင်းခံရသူ"အတွက်
ဒေါ်သူသူမြင့်
၁၃/ကခန(နိုင်)၀၁၆၈၅၆
အုပ်ချုပ်မှုဒါရိုက်တာ
အမှတ်၇၇(အေ)၊ သံလွင်လမ်း၊ ၁၀ရပ်ကွက်၊
ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

၂၂။ လွှဲပြောင်း၍ မရနိုင်သော အခွင့်အရေးများ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ၏ လွှဲပြောင်း၍မရနိုင်သော နိုင်ငံတော်၏ မြေပေါ်မြေအောက်၊ ရေပေ ရေအောက် သယံဇာတများကို တစ်ဦးတည်းပိုင်ဆိုင်ခွင့်နှင့် မူလ ဘူတ အခွင့်အရေးကျင့်သုံးခြင်းကို စာချုပ်ဝင်များ၏အနညာတ ဖြေရှင်းရန်တင်ပြသည့် သဘောတူညီချက် အပါအဝင် ဤစာချုပ်ပါ မည်သည့်ပြဋ္ဌာန်းချက်ကမျှ တားမြစ်ခြင်း သို့မဟုတ် ကန့်သတ် ခြင်းမပြုနိုင်။

၂၃။ အထွေထွေ

(က) ဤစာချုပ်သည် ယခင်က အချင်းချင်းသဘောတူညီချက်များ၊ နားလည်မှုများ အားလုံးကို လွှမ်းမိုးစေရမည်။

(ခ) စာချုပ်၏ နောက်ဆက်တွဲများ၊ ပုံစံများ၊ စာရင်းဇယားများ၊ မြေပုံများ အားလုံးသည် ဤစာချုပ်၏ တစ်စိတ်တစ် ဒေသ ဖြစ်စေရမည်။

အထက်ပါ စည်းကမ်းချက်များကို နားလည်းသဘောတူ လက်ခံကြသည့်အတိုင်း စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်တွင် အထက်တွင်ဖော်ပြထားသည့် ရက်၊ လ၊ ၂၀၁၅ခုနှစ်တွင် အောက်ပါအသိသက်သေ လူကြီးများရှေ့တွင် မိမိတို့၏ တံဆိပ်တုံးများ ရိုက်နှိပ်လျှက် လက်မှတ်ရေးထိုး ချုပ်ဆိုကြပါသည်။

| | |
|---|---|
| အငှားချထားသူ (ကိုယ်စား) | အငှားချထားခြင်းခံရသူ |
| (ဒေါက်တာညီညီကျော်) | (ဒေါ်သူသူမြင့်) |
| ညွှန်ကြားရေးမှူးချုပ် | ၁၃/ကစန(နိုင်)၀၁၆၈၅၆ |
| သစ်တောဦးစီးဌာန | အမှတ်၇၇ (အေ)၊ သံလွင်လမ်း၊ ၁၀ရပ်ကွက်၊ |
| နေပြည်တော် | ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |

အသိသက်သေများ

| | | | |
|---|---|---|---|
| ၁။လက်မှတ် | ________________ | ၂။လက်မှတ် | ________________ |
| အမည် | ________________ | အမည် | ________________ |
| ရာထူး | ________________ | နိုင်ငံသားစိစစ်ရေးအမှတ် | ________________ |
| လိပ်စာ | ________________ | လိပ်စာ | ________________ |

တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်၊ ဘဝါကြီးဝိုင်းအတွင်း၊
မြန်မာ့ရွှေ(မ်)မောင်တိန်းကုမ္ပဏီလီမိတက်သို့ လမ်းခင်းကျောက်ထုတ်လုပ်ခွင့်ပြုသ
မြေဧရိယာ(၄၈)ဧက၏ တည်နေရာပြမြေပုံ




ရည်ညွှန်းချက်
ကားလမ်း -
မြစ်ချောင်း -
ကျေးဝိုင်းနယ်နိမိတ် -
ဒေသထောက်ပံ့ရေးဇုန်နယ်မြေ -
အတွင်းကျရောက်သည့်တည်နေရာ
ကွင်းဆင်းစစ်ဆေးသည့်ဧရိယာဧက - (၄၈.၁၉)ဧက

**ခန့်မှန်းမြေပုံညွှန်း**
LCC 95 F/15
A- 904 017
B- 909 016
C- 909 013
D- 908 011
E- 904 012
F- 905 015
G- 904 016

(…င်းခုနှစ်လှ)
တောအုပ်
သစ်တောဦးစီးဌာန
……မြို့။

2011…

**Myanma Rock Mountain Co.,Ltd.**

No.(77-A), Than Lwin Road, Kamaryut Township, Yangon. ☎ :01-503697, : 09-5194349, 09-49222634
E-mail : mrmountain08@gmail.com

Myanma Rock Mountain Co., Ltd.
No.............
Date.............

စာအမှတ်။ ။ MRM - F - YGN - 026/15

ရက်စွဲ ။ ။ ၂၀၁၅ခုနှစ်၊ ဩဂုတ်လ(၃၁)ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်

အကြောင်းအရာ။ ။ <u>စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီပြင်ဆင်ထားရှိမှုအား တင်ပြခြင်းကိစ္စ။</u>

၁။ ကျွန်တော်များ မြန်မာ့ရော့(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်အနေဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ထားဝယ်ခရိုင်၊ ရေဖြူမြို့နယ်တွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနပိုင် သစ်တောကြိုးဝိုင်း ဘဝါကြိုးဝိုင်း အကွက်အမှတ် (၁၂)အတွင်းရှိ မြေဧရိယာ (၄၈) ဧကခွဲတည်ရှိသော ကျောက်တောင်များမှ ခွဲကျောက်ထုတ်လုပ်ခြင်း လုပ်ငန်းကို အနှစ် (၃၀)ကာလ ရင်းနှီးမြှုပ်နှံမှုပြုလိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ ခွင့်ပြုမိန့်ရရှိနိုင်ရန် အတွက် စက်မှုဝန်ကြီးဌာန၏ သဘောမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း အောက်ပါအတိုင်း တင်ပြပါသည် -

(က) မိမိတို့၏ကျောက်ထုတ်လုပ်ခြင်းလုပ်ငန်းသည် ကျောက်ချော(အလှဆင်ကျောက်) ထုတ်လုပ်ခြင်းမဟုတ်ဘဲ၊ လမ်းခင်းကျောက်ထုတ်လုပ်ခြင်းအဆင့်သာဖြစ်၍ သက်ဆိုင်ရာဌာန၏ စိစစ်ခွင့်ပြုချက်များနှင့် အညီဆောင်ရွက်ထားပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုအား လျှပ်စစ်ဥပဒေနှင့်အညီအသုံးမပြုမီ လျှပ်စစ် စစ်ဆေးရေးအဖွဲ့နှင့် စစ်ဆေးပြီး သုံးစွဲခွင့်ကို ရယူဆောင်ရွက်ပါမည်။

(ဂ) ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်နိုင် ရန်မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး စီမံချက်များအတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ဆောင်ရွက်ထားပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(MIC)အဆိုပြုချက်ရရှိပြီးလျှင် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှု မှတ်ပုံတင်ဆောင်ရွက်ပါမည်။

# Myanma Rock Mountain Co.,Ltd.

No.(77-A) Than Lwin Road, Kamaryut Township, Yangon. ☎ :01-503697, : 09-5194349, 09-49222634
E-mail : mrmountain08@gmail.com


Myanma Rock Mountain Co., Ltd.
No..............
Date..............
(c)

ကျောက်ထုတ်လုပ်ရာတွင် လိုအပ်သောယမ်းတိုက်၊ ယမ်းနှင့်ဆက်စပ်ပစ္စည်းများ အသုံးပြုမည့်နှုန်းထားများ၊ အဆိုပါလုံခြုံမှုဆိုင်ရာပစ္စည်းများ၏ လုပ်ငန်းခွင်အန္တရာယ် မဖြစ်စေရေးနှင့်မလိုလားအပ်သောကိစ္စရပ်များ မပေါ်ပေါက်စေရေးစသည့် ကိစ္စရပ်များအတွက် သက်ဆိုင်ရာဌာနများမှ ထိန်းသိမ်းကြပ်မတ်မှုအတိုင်း လိုက်နာဆောင်ရွက်ပါမည်။

လေးစားစွာဖြင့်

ဒေါ်သူသူမြင့်

အုပ်ချုပ်မှုဒါရိုက်တာ

မြန်မာ့ရော(ခ်)မောင်တိန်း ကုမ္ပဏီလီမိတက်

၁၅၁၈
၂၉.၈.၂၀

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ့ ရော့(ခ်) မောင်တိန်းကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖ ❖

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

*AND*

**Articles Of Association**

*OF*

# MYANMA ROCK MOUNTAIN COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ့ ရော့(ခ်) မောင်တိန်းကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် မြန်မာ့ ရော့(ခ်) မောင်တိန်းကုမ္ပဏီ လီမိတက် ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၄။ ကုမ္ပဏီ၏ သတ်မှတ်မတည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /-( ကျပ် သန်းငါးရာ တိတိ ) ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀.၀၀ /-( ကျပ် တစ်သိန်း တိတိ ) တန်အစုရှယ်ယာပေါင်း ( ၅,၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ အထွေထွေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

ကုမ္ပဏီမှဆောင်ရွက်မည့် လုပ်ငန်းရည်ရွယ်ချက်များမှာ-

(၁) လယ်ယာကိုင်းကျွန်းနှင့် ဥယာဉ်ခြံမြေထွက်ကုန်ပစ္စည်းများ
(၂) သစ်တောထွက်ပစ္စည်းနှင့် ထပ်ဆင့်တိုးတန်ဖိုးမြင့် သစ်အခြေခံ ကုန်ပစ္စည်းများ၊
(၃) တိရစ္ဆာန်ထွက် ကုန်ပစ္စည်းနှင့် တိရစ္ဆာန်အစားအစာ
(၄) ရေထွက်ကုန်ပစ္စည်းများ၊
(၅) ဓါတ်မြေသြဇာနှင့် ပိုးသတ်ဆေးများ၊
(၆) ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ၊
(၇) စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများ၊
(၈) အိမ်သုံးကုန်ပစ္စည်းများ၊
(၉) လူသုံးကုန်ပစ္စည်းများ၊
(၁၀) ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများနှင့် သုတ်ဆေးများ
(၁၁) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ၊
(၁၂) ယာဉ်နှင့်စက်ကိရိယာနှင့် အပိုပစ္စည်းများ၊
(၁၃) ကိရိယာတန်ဆာပလာအမျိုးမျိုး၊
(၁၄) ဆေးနှင့်ဆေးပစ္စည်းများ၊
(၁၅) စားသောက်ကုန်နှင့် အထွေထွေကုန်ပစ္စည်းများ၊
(၁၆) အထည်အလိပ်နှင့် အဝတ်အထည်များ၊
(၁၇) စက္ကူ၊ စာရေးကိရိယာနှင့် ဓာတ်ပုံပစ္စည်းများ၊
(၁၈) ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူ ပစ္စည်းများ၊
(၁၉) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှု အတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊
(၂၀) ကြော်ငြာနှင့် ကြော်ငြာ ကိုယ်စားလှယ် လုပ်ငန်းများ၊
(၂၁) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့် ပတ်သက်သည့် လုပ်ငန်းများ
(၂၂) ဆေးဝန်ဆောင်မှု လုပ်ငန်းအမျိုးမျိုး၊
(၂၃) သယ်ယူပို့ဆောင်ရေး လုပ်ငန်း၊ (မီးရထားနှင့် လေကြောင်းမှအပ)
(၂၄) ပုံနှိပ်ထုတ်ဝေခြင်း လုပ်ငန်း၊
(၂၅) တိုင်းတာရေးနှင့် စစ်ဆေးရေး လုပ်ငန်း၊
(၂၆) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊
(၂၇) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေ အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ၊
(၂၈) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊
(၂၉) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံ တည်ဆောက် ခြင်း လုပ်ငန်းများ၊
(၃၀) လယ်ယာကိုင်းကျွန်းနှင့် ဥယာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိပ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊
(၃၁) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊
(၃၂) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊
(၃၃) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊
(၃၄) ဓါတ်မြေသြဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း၊
(၃၅) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၆) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၇) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၃၈) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊
(၃၉) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊
(၄၀) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၄၁) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊
(၄၂) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊
(၄၃) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊
(၄၄) ဆောက်လုပ်ရေးလုပ်ငန်း၊
(၄၅) ကျောက်မျက်လုပ်ငန်း၊
(၄၆) ခရီးသွားလုပ်ငန်း၊
(၄၇) ဟိုတယ်လုပ်ငန်း၊
(၄၈) အသေးစားငွေရေးကြေးရေးလုပ်ငန်း၊

(ပ) ကုမ္ပဏီမှ သင့်တော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ ၊ ဘဏ် ၊ သို့မဟုတ် ၊ ငွေကြေး အဖွဲ့အစည်း ထံမှမဆို ငွေချေးယူရန် ။

ခြွင်းချက် ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော် အတွင်း ၌ ဖြစ်စေ ၊ အခြား မည်သည့် အရပ်ဒေသ၌ဖြစ်စေ ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရား ဥပဒေ များ ၊ အမိန့်ကြော်ငြာစာများ ၊ အမိန့်များ က ခွင့် ပြုထားသည့် လုပ်ငန်းများမှအပ အခြား လုပ်ငန်းများ ကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုပါ ။ ထို့အပြင် ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရား ဥပဒေပြဋ္ဌာန်းချက်များ ၊ အမိန့် ကြော်ငြာစာများ ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ၊ ခွင့်ပြုထားရှိခြင်း ရှိမှ သာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါ် သူသူမြင့်<br>ကုန်သည်<br>အမှတ်(၇၇/အေ)၊ သံလွင်လမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၁၃/ကခန(နိုင်)၀၁၆၈၅၆ | ၇၀ | (signature) |
| ၂ | ဦး ခင်မောင်မြင့်<br>ကုန်သည်<br>အမှတ်(ခ/၁၁)၊ နယ်မြေ(၆)၊ (၂)ရပ်ကွက်၊ ကွတ်ခိုင်မြို့၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)။ | ၁၃/ကခန(နိုင်)၀၀၉၄၄၇ | ၃၀ | (signature) |

နေပြည်တော်။ နေ့စွဲ၊ ၂၀၁၄ ခုနှစ်၊ ၀၈ လ၊ ၂၉ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Daw Moe Moe Ay
LL.B, D.B.L, D.M.L, D.
WIPO, DL-101 Swit
Advocate

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်မာ့ ရော့(ခ်) မောင်တိန်းကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင် မစေရမည်။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်း များသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျုံး သက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည် ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းမှာ ကျပ်မှာ ၅၀၀,၀၀၀,၀၀၀ /-(ကျပ်
သန်းငါးရာ တိတိ)ဖြစ်၍ ငွေကျပ် ၁၀၀,၀၀၀.၀၀ /-(ကျပ်
တစ်သိန်း တိတိ)တန်အစုရှယ်ယာပေါင်း ၅,၀၀၀ ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များ နှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း
သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြား ပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြား သက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်ထားသည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦးထက်မနည်း၊ ( ၁၅ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဒေါ် သူသူမြင့် (၂) ဦး ခင်မောင်မြင့်

တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှတစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်မျောဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းကအသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦး ဖြစ်မြောက်ရန်လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စု ကိုပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၅ ပါ ပြဌာန်းချက် များကို လိုက်နာရန်တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးပဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည်၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံ ဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေ သတ်မှတ်ခြင်းတို့ကိုဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့် ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေးဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ် ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက် တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူ ကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက် ကဲ့သို့ပင် ကိစ္စ အားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများ ရှိရမည်ဟု အတိအလင်း ထုတ်ဖော် ကြေငြာသည်။ အာဏာဆိုသည်မှာ -

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့် စည်းကမ်းများ ၊ အခြေအနေများ သတ်မှတ် ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မ ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန် အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသေ မည်သည့်ပစ္စည်း ၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆို သင့်တော်သော စည်းကမ်းချက်မျ သတ်မှတ်၍ ရောင်းချခြင်း ၊ အငှားချခြင်း ၊ စွန့်လွှတ်ခြင်း သို့မဟုတ် အခြားနည်းလမ်းများဖြ ဆောင်ရွက် ခြင်းတို့ကို ပြုလုပ်ရန် ။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆို ချေးငှား သော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန် အတွက်အာမခံများ ထားရှိရန် အပြင်၊ အထူးသဖြ ဤ ကုမ္ပဏီ၏ ဒီဘင်ချာများ ၊ ဒီဘင်ချာစတော့(ခ်)များ ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေမျာ အပါအဝင် ယခုလက်ရှိ နှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသ ကို အပေါင်ပြု၍ ထုတ်ဝေရန် ။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှု များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန် ၊ သို့မဟုတ် အစုရှယ်ယာများ ၊ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီး သော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော် လည်းကောင်း ၊သဘောတူညီ သကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံ စာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ ၊ ထိုကဲ့သို့ မဟုတ်ဘဲ ဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်ခြင်း အလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော် လည်းကောင်း ၊ အပေါင်ပြု၍သော် လည်းကောင်း ၊ သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း ၊ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန် ။

(၅) မန်နေဂျာများ ၊ အတွင်းရေးမှူးများ အရာရှိများ ၊ စာရေးများ ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း ၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း ၊အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ ၊ အာဏာများ ၊ လစာငွေများ ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း ၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန် ၊ ထို့အပြင် အဆိုပါ ကိစ္စများအတွက် ကုမ္ပဏီ၏ မည့်သည့်အရာရှိကိုမဆို ကိစ္စရပ်များ အားလုံးကိုဖြစ်စေ ၊ တစ်စိတ်တစ်ဒေကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ် ရန် ။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာ တစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေးဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာ အဖြစ် ခန့်ထားရန် ။

(၇) မည်သည့်အစုရှင် ထံမှမဆို ၄င်းတို့ ၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန် ။

(၈) ဤ ကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့် ဖြစ်သောမည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စား လက်ခံထိန်းသိမ်းထားရန် အတွက် မည်သည့် ပုဂ္ဂိုလ် သို့မဟုတ်ပုဂ္ဂိုလ်များကို မဆို ခန့်ထားရန်နှင့်အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်း များ ချုပ်ဆို ပြုလုပ်ရန် ။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို ၊အရေးယူ ၊ခုခံကာကွယ်ရန် သို့မဟုတ်ခွင့်လွှတ်ရန် ၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီးများနှင့်ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန် ။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများ အတွက် ပြေစာများပြုလုပ်ခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့် ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ ၊မပါသည် ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန် ၊ ထို့အပြင် အချိန်ကာလ အားလျော်စွာ မြှုပ်နှံထား သောငွေများကိုပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန် ။

(၁၅) ဤ ကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြား ပုဂ္ဂိုလ် များက ကုမ္ပဏီ၏ (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏အမည့်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါကဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေ ပြဋ္ဌာန်းချက်များ ပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သော လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက်ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ အမြတ်များ ခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသ အဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထား စည်းမျဉ်းများ၊ စည်းကမ်းချက်များ ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြ ပြင်ဆင်ခြင်း ၊ ပြည့်စွက်ခြင်း များ ဆောင်ရွက်ရန်။။

(၁၈) ဤ ကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြ လိုအပ်သည် ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများ ကို ပြုလုပ် ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များ လည်းကောင်း ၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန် ။

(၁၉) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေ အတွက် မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီသို့မဟုတ်ဘဏ် သို့မဟု ငွေကြေးအဖွဲ့အစည်း ထံမှ မဆို ငွေချေးယူရန် ။

## အထွေထွေ အစည်းအဝေးကြီးများ

ကုမ္ပဏီကို ဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့် နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွ အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွ ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီးန တစ်ဆယ့်ငါးလထက် မပိုသည့် အချိန်၌ ) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေး စတင်၍ လုပ်ငန်းအတွ ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင် အရေ အတွက် မတက်ရောက်သေ မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်း မပြုရ ဤတွင် အခြားနည်းသတ်မှတ် ပြဋ္ဌာန်းခြင်း မရှိလျှင်ထုတ်ဝေထားသည့် မ,တည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက် မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက် မနည်းသော) အစုရှင်များကိုယ်တိုင် တက်ရောက်လျှင် လုပ်ငန်းကိစ္စ အားလုံးဆောင်ရွက်ရန် အတွက် အစည်းအဝေး အထမြောက်သည့် ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင် အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်း သည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအား ခွဲဝေပေးသည့် အမြတ်ဝေစုကို ကြေငြာ ရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေ ရသေးသည့် အမြတ်ပမာဏမှအပ အမြတ် ဝေစုကို ခွဲဝေမပေးရ ။

## ရုံးဝန်ထမ်းများ

ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေ မန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများ အား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ ၊ ခရီးသွားလာစရိတ် နှင့် အခြား အသုံးစရိတ်များကဲ့ သို့သော ဉာဏ် ပူဇော်ခ များနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာ လုပ်ငန်းလည်ပတ်မှု အားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်းဒါရိုက်တာအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့် အညီ ထားသို ထိန်းသိမ်းဆောင်ရွက်ရမည် ။

(၁) ကုမ္ပဏီ၏ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၎င်းရငွေ ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ ။

(၂) ကုမ္ပဏီ ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤ ကုမ္ပဏီ၏ ရရန် ပိုင်ခွင့် နှင့် ပေးရန် တာဝန်များ။

၉။ ငွေစာရင်းစာအုပ် အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများ သို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး ၊ ရုံးချိန် အတွင်း ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်းစည်းကမ်းများနှင့် လိုက်လျော ညီထွေ ဖြစ်ရမည်။

## နို့တစ်စာ

။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှ တဆင့်လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက်စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေး အပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှတပါး မည်သည့်အခါမျှ မသုံးရ။တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်း တိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆(ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိတာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ ၊ဆုံးရှုံးငွေများ၊ ကုန်ကျငွေများ နှင့် ကြွေးမြီးတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်း နိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ် ရမည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည် အသီးသီးနှင့် ယှဉ်တွဲ ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့်အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲ လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါ် သူသူမြင့်<br>ကုန်သည်<br>အမှတ်(၇၇/အေ)၊ သံလွင်လမ်း၊ (၁၀)ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ | ၁၃/ကခန(နိုင်)၀၁၆၈၅၆ | ၇၀ | |
| ၂ | ဦး ခင်မောင်မြင့်<br>ကုန်သည်<br>အမှတ်(ခ/၁၁)၊ နယ်မြေ(၆)၊ (၂)ရပ်ကွက်၊ ကွတ်ခိုင်မြို့၊ ရှမ်းပြည်နယ်(မြောက်ပိုင်း)။ | ၁၃/ကခန(နိုင်)၀၀၉၄၄၇ | ၃၀ | |

နေပြည်တော် ။ နေ့စွဲ ၊ ၂၀၁၄ ခုနှစ်၊ ၀၈ လ၊ ၂၉ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Daw Moe Moe Ay
LL.B, D.B.L, D.M.L, D
WIPO, DL-101 Switze
Advocate

THE MYANAMR COMPANY ACT

PRIVATE COMPANY LIMITED BY SHARES

**Memorandum Of Association**

OF

# MYANMA ROCK MOUNTAIN COMPANY LIMITED

❖ ❖ ❖ ❖ ❖ ❖ ❖

I. The name of the Company is **MYANMA ROCK MOUNTAIN COMPANY LIMITED**

II. The registered office of the Company will be situated in the Union of Myanmar.

III. The liability of the members is limited.

IV. The authorised capital of the Company is Ks- **500,000,000** /-(Kyats **Five Hundred Million** Only ) divided into **(5,000** ) shares of Ks. **100,000.00** /-(Kyats **One Lakh** Only ) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

## (5) The Objective for which the Company is established are-

1. Agricultural and farm produces.
2. Forest products and value-added wood-based products.
3. Animal by-products and Animal feed.
4. Marine products.
5. Fertilizer and insecticides.
6. Chemicals and dyes.
7. Factory utencils and raw material.
8. Household goods.
9. Personal goods.
10. Construction materials and paints.
11. Electrical and electronic products.
12. Vehicles, Machinery and spares.
13. Tools and implement.
14. Medicines and medical equipment.
15. Foodstuff and general merchandise.
16. Textile and garment.
17. Paper, stationery and photographic stores.
18. Office equipment and educational supplies.
19. All kinds of agency business, technical consultants, business consultants, management consultants and advisory services.
20. Advertising and its agency business.
21. Business of entertainments and related activities.
22. Business of all kinds of medical services.
23. Business of transportation (except railways and airways)
24. Business of printing and publishing.
25. Business of surveying and inspection.
26. Business of feasibility study on new projects, projects formulation, project appraisal and project evaluation.
27. Business of Account writing, Auditing and legal advisory services.
28. Business of servicing, maintenance of repairing of all kinds of vehicles and machines.
29. Business of installation, maintenance and renovation of electrical and electronic goods.
30. Growing, producing, harvesting, preserving, packing, milling and manufacturing of agricultural and farm products.
31. Felling, extracting (with the permission from the authorities concerned) milling, manufacturing, preserving and seasoning of timber(excluding-teak) and forest products.
32. Livestock breeding, processing and canning of livestock products.
33. Finishing, preserving, milling, canning and processing of marine products.
34. Producing fertilizers, insecticides and animal feeds.
35. Manufacturing of personal goods.
36. Manufacturing of household goods.
37. Manufacturing of vehicles, machineries and spares
38. Manufacturing of arts and crafts, lacquerwares and furniture.
39. Manufacturing of construction materials and paints.
40. Manufacturing of factory utencils.
41. Manufacturing of electrical and electronic goods.
42. Manufacturing of textile, garments and clothing.
43. To carry on the business of explanation, exploitation, production, processing of minerals and marketing of its products with the permission of the Government.
44. Construction.
45. Gems.
46. Travel & Tours.
47. Hotel.
48. Micro Finance And Financial Services.

(6) to borrow money for the benefit of the Company's business from any person, firm, company, bank of financial organization in the manners that the Company shall think fit.

proviso:- *Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approvals as may be perscribed by the Laws, Orders and Notifications of the Republic of the Union of Myanmar for the time being in force.*

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1 | **Daw Thu Thu Myint**<br>Merchant<br>No. 77/A, Thanlwin Road, Ward No. 10, Kamayut Township, Yangon. | 13/KAKHANA(NAING)016856 | 70 | |
| 2 | **U Khin Maung Myint**<br>Merchant<br>No. Kha/11, Region No. 6, Ward No. 2, Kutkhaing Township, Shan(North). | 13/KAKHANA(NAING)009447 | 30 | |

NayPyiTaw Dated 29 the 08 day of 2014

It is hereby certified that the persons mentioned above

put their signatures in my presence.

Daw Moe Moe Aye
LL.B, D.B.L, D.M.L, D.I.L,
WIPO, DL-101 Switzerland
Advocate

